# ဗိုလ်ချုပ်အောင်ဆန်း
# ဒေါ်အောင်ဆန်းစုကြည်
သို့မဟုတ်
# သမိုင်းပေးသောထိုနှစ်ယောက်

နေစိုးထက်



# ဗိုလ်ချုပ်အောင်ဆန်း
# ဒေါ်အောင်ဆန်းစုကြည်
သို့မဟုတ်
# သမိုင်းပေးသောထိုနှစ်ယောက်

နေစိုးထက်



# မြဝါ်ပန်းရဂုံ

စာပေဖြန့်ချိရေး

အမှတ်-၁၉၄ ၂၉ လမ်း(အထက်)၊ ပန်းဘဲတန်းမြို့နယ်၊ ရန်ကုန်မြို့။ ဖုန်း – ၀၉-၅၈၃၉၄၅၀၊ ၀၉-၅၁ ၅၅

အမှတ် (၁၄၃)၊ မြန်မာ့ဂုဏ်ရည်လမ်း၊ တာန်တော်ကလေး၊ ရန်ကုန်

ဖုန်း-၃၉၄၆၈၅၊ ၀၉၇၃၀၄၁၀၇၈

## ပုံနှိပ်မှတ်တမ်း

| | | |
|---|---|---|
| မျက်နှာဖုံးဒီဇိုင်း | ◆ | မင်းမြင့်ခိုင် |
| အတွင်းစာစီ | ◆ | မြစ်ခွဲဇစင်းကွန်ပျူတာ |
| ထုတ်ဝေသည့်လ | ◆ | ၂၀၁၂ ခုနှစ်၊ နိုဝင်ဘာ လ |
| အကြိမ် | ◆ | ပထမအကြိမ် |
| အုပ်ရေ | ◆ | ၁၀၀၀ |
| ထုတ်ဝေသူ | ◆ | ဦးသန်းမြင့်(၀၁၀၄၀)၊ လင်းလင်းစာပေ၊ အမှတ်(၄/၂၉)၊ မြဝတီမင်းကြီးလမ်း၊ ၁၀–မိုင်ကုန်း၊ အင်းစိန်၊ ရန်ကုန်မြို့ |
| မျက်နှာဖုံးနှင့် အတွင်းပုံနှိပ်သူ | ◆ | ဒေါ်ခင်စီ (ပြည်ဦးဘေပုံနှိပ်တိုက်)၊ အမှတ်(၁၅၈)၊ ၃၇–လမ်း၊ ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့ |
| စာအုပ်ချုပ် | ◆ | ပပစိုးနှင့်အဖွဲ့ |
| တန်ဖိုး | ◆ | ၅၀၀ ကျပ် |

"ထုတ်ဝေသည့်စာအုပ်ကတ်တလောက်အညွှန်း" **(CIP)**

၉၂၇.၂

နေစိုးထက်

သမိုင်းကပေးသောထိုနှစ်ယောက် / နေစိုးထက်။ –ရန်ကုန်၊ လင်းလင်းစာပေ၊ ၂၀၁၂။

၂၂၀ – စာ ၁၃ × ၁၉ စင်တီ

(၁) သမိုင်းကပေးသောထိုနှစ်ယောက်

# ဗိုလ်ချုပ်အောင်ဆန်း
# အောင်ဆန်းစုကြည်

သို့မဟုတ်

သမိုင်းပေးသော ထိုနှစ်ယောက်

နေမျိုးထက်

## ဒို့တာဝန်အရေးသုံးပါး

| | |
|---|---|
| ပြည်ထောင်စုမပြိုကွဲရေး | ဒို့အရေး |
| တိုင်းရင်းသား စည်းလုံးညီညွတ်မှုမပြိုကွဲရေး | ဒို့အရေး |
| အချုပ်အခြာအာဏာ တည်တံ့ခိုင်မြဲရေး | ဒို့အရေး |

## ပြည်သူ့သဘောထား

- ပြည်ပအားကိုး ပုဆိန်ရိုး အဆိုးမြင်ဝါဒီများအား ဆန့်ကျင်ကြ။
- နိုင်ငံတော်တည်ငြိမ်အေးချမ်းရေးနှင့် နိုင်ငံတော်တိုးတက်ရေးကို နှောင့်ယှက် ဖျက်ဆီးသူများအား ဆန့်ကျင်ကြ။
- နိုင်ငံတော်၏ ပြည်တွင်းရေးကို ဝင်ရောက်စွက်ဖက်နှောင့်ယှက်သော ပြည်ပနိုင်ငံများအား ဆန့်ကျင်ကြ။
- ပြည်တွင်းပြည်ပ အဖျက်သမားများအား ဘုံရန်သူအဖြစ် သတ်မှတ်ချေမှုန်းကြ။

## နိုင်ငံရေး ဦးတည်ချက် (၄) ရပ်

- နိုင်ငံတော်တည်ငြိမ်ရေး၊ ရပ်ရွာအေးချမ်းသာယာရေးနှင့် တရားဥပဒေစိုးမိုးရေး
- အမျိုးသား ပြန်လည်စည်းလုံးညီညွတ်ရေး
- ခိုင်မာသည့် ဖွဲ့စည်းပုံအခြေခံဥပဒေသစ် ဖြစ်ပေါ်လာရေး
- ဖြစ်ပေါ်လာသည့် ဖွဲ့စည်းပုံအခြေခံဥပဒေသစ်နှင့်အညီ ခေတ်မီဖွံ့ဖြိုးတိုးတက်သော နိုင်ငံတော်သစ်တစ်ရပ် တည်ဆောက်ရေး

## စီးပွားရေး ဦးတည်ချက် (၄) ရပ်

- စိုက်ပျိုးရေးကိုအခြေခံ၍ အခြားစီးပွားရေးကဏ္ဍများကိုလည်း ဘက်စုံဖွံ့ဖြိုးတိုးတက်အောင် တည်ဆောက်ရေး
- ဈေးကွက်စီးပွားရေးစနစ် ပီပြင်စွာ ဖြစ်ပေါ်လာရေး
- ပြည်တွင်းပြည်ပမှ အတတ်ပညာနှင့် အရင်းအနှီးများ ဖိတ်ခေါ်၍ စီးပွားရေး ဖွံ့ဖြိုးတိုးတက်အောင် တည်ဆောက်ရေး
- နိုင်ငံတော် စီးပွားရေးတစ်ရပ်လုံးကို ဖန်တီးနိုင်မှုစွမ်းအားသည် နိုင်ငံတော်နှင့် တိုင်းရင်းသားပြည်သူတို့၏ လက်ဝယ်တွင်ရှိရေး

## လူမှုရေး ဦးတည်ချက် (၄) ရပ်

- တစ်မျိုးသားလုံး၏ စိတ်ဓာတ်နှင့် အကျင့်စာရိတ္တမြင့်မားရေး
- အမျိုးဂုဏ်၊ ဇာတိဂုဏ်မြင့်မားရေးနှင့် ယဉ်ကျေးမှုအမွေအနှစ်များ အမျိုးသားရေး လက္ခဏာများ မပျောက်ပျက်အောင် ထိန်းသိမ်းစောင့်ရှောက်ရေး
- မျိုးချစ်စိတ်ဓာတ် ရှင်သန်ထက်မြက်ရေး
- တစ်မျိုးသားလုံး ကျန်းမာကြံ့ခိုင်ရေးနှင့် ပညာရည်မြင့်မားရေး

အမျိုးဂုဏ်
ဇာတိဂုဏ်နှင့်
တိုင်းချစ်ပြည်ချစ်
စိတ်ရှိသူတိုင်းသို့ . . .

- ရတနာမြတ်သုံးပါး
- အနန္တော အနန္တငါးပါး ဦးထိပ်ထား၍ ဘဝတကွေ့ တွေ့ခဲ့ရသည့်
- ထမင်းတစ်လုတ် ကျွေးခဲ့ဖူးသူ
- ရေတစ်မှုတ် တိုက်ခဲ့ဖူးသူ
- စကားတစ်ခွန်း ညွှန်းဆိုခဲ့ဖူးသူတို့နှင့် ချစ်သူ မုန်းသူတို့အား ထာဝရဂါရဝဖြင့် . . .

နေစိုးထက်



လူထုခေါင်းဆောင်
လွတ်လပ်ရေးဗိသုကာ
ဗိုလ်ချုပ်အောင်ဆန်း

အားမာန်သစ်စာပေ

## မာတိကာ



ဒီမိုကရေစီ သူမ
သို့မဟုတ်
အောင်ဆန်းစုကြည်

ဒီမိုကရေစီဝါဒဟာ
လွတ်လပ်ရေးနဲ့ ဆီလျော်တယ်။
ဒီဝါဒသာ
ငြိမ်းချမ်းရေးကို အားပေးတယ်။
အဲဒါကြောင့်
ဒီဝါဒကိုသာ
ကျွန်တော်တို့ ရည်ရွယ်ရမယ်။
(ဗိုလ်ချုပ်အောင်ဆန်း)

# နိဒါန်း
# သို့မဟုတ်
# မြန်မာနိုင်ငံရေးသမိုင်းစဉ်ထဲက သမိုင်းပေးသော ထိုနှစ်ယောက်

[၁]

သမိုင်းသည် ပကတိအခြေအနေများ၊ ဖြစ်စဉ်မှန်များအား ပုံဖော်ခြင်း ဖြစ်သည်။ အကောင်းနှင့်အဆိုးသည် ရောပြွမ်းလျက်။

သမိုင်းအဖြစ်အပျက်များသည် အနာဂတ်အား သင်ခန်းစာ ပေးလျက် ရှိသည်။ စင်စစ် သမိုင်းကို ဖန်တီးသူများသည် လူပုဂ္ဂိုလ်များ ဖြစ်၏။

ထိုထိုသော လူပုဂ္ဂိုလ်များ၏ ရှန်းကန်လှုပ်ရှားဖန်တီးပြုမူချက်များသည် အနာဂတ်တွင် သမိုင်းဖြစ်စဉ်များ ဖြစ်လာ၏။

ကမ္ဘာ့သမိုင်းအားကြည့်လျှင် ဖခင်သည် စွမ်းဆောင်ရှင် နိုင်ငံနှင့် လူမျိုးအား ဦးဆောင်သူဖြစ်သလို ထိုပုဂ္ဂိုလ်၏သား (သို့မဟုတ်) သမီးသည် ထိုနိုင်ငံတွင် ဦးဆောင်သူ၊ စွမ်းဆောင်ရှင်အဖြစ် ရပ်တည်ပေါ်ပေါက်ခြင်းများစွာ ရှိခဲ့သည်။

နိုင်ငံတစ်နိုင်ငံအတွက် ဂုဏ်ယူစရာပင်။ အမေရိကန် သမိုင်းတွင် သမိုင်းလိုအပ်ချက်အရ သားကဖခင်နှယ် နိုင်ငံ ဦးဆောင်သူအဖြစ် ရပ်တည်အောင်မြင်သူတွေ ရှိသည်။

အိန္ဒိယနှင် ပါကစ္စတန် စသည်နိုင်ငံများတွင်လည်း ရှိခဲ့ သည်ပင်။ ထိုပုဂ္ဂိုလ်များက မိမိစွမ်းဆောင်ရည်နှင့် မိမိ အောင် မြင်မှုရယူကာ နိုင်ငံခေါင်းဆောင် ဖြစ်ခဲ့ကြသည်။

ဥပဒေသရာဇ်စနစ်၊ အာဏာရှင်စနစ်အရ ပေါ်ထွန်းခဲ့ သည်ကို မဆိုလိုပါ။

[၂]

ကမ္ဘာ့သမိုင်းတွင် မြန်မာနိုင်ငံသည် သေးငယ်သည်ဟု ဆိုရမည်ပင်။ သို့သော် မြန်မာနိုင်ငံသည် ထူးခြားသည့် ဖြစ်စဉ် များဖြင့် ရပ်တည်နေသည်။

မြန်မာနိုင်ငံသည် ကိုယ့်ထီးကိုယ့်နန်း ကိုယ်ကြငှာန်းနှင့် ခန့်ထယ်ခဲ့သည့်နိုင်ငံ တစ်နိုင်ငံဖြစ်သကဲ့သို့ နယ်ချဲ့၏ ကိုလိုနီ ကျွန်ပြုခံဘဝသို့ ရောက်ရှိခဲ့ရသည့်နိုင်ငံလည်း ဖြစ်၏။

ထို့ကြောင့် မြန်မာနိုင်ငံသူ၊ နိုင်ငံသားတို့၏ နှလုံးသားတွင် နယ်ချဲ့ဆန့်ကျင်ရေးနှင့် အမျိုးသားလွတ်လပ်ရေး၊ လွတ်လပ်ရေး တိုက်ပွဲဝင်ရန် ဆန္ဒ ပြင်းထန်ခဲ့သည်။ မျိုးချစ်စိတ်ဓာတ်တို့ လွှမ်းခြုံခဲ့သည်။

ဇာတိ၊ ပုည၊ ဂုဏ်မာနနှင့် နိုင်ငံလွတ်လပ်ရေးအတွက်

တိုက်ပွဲဝင်ကြသည်မှာ နှစ်ပေါင်းများစွာ ကြာခဲ့သည်။နှစ်ပေါင်းများစွာ ကြာခဲ့သော်လည်း မအောင်မြင်ခဲ့။

ထိုစဉ် မြန်မာနိုင်ငံတွင် သမိုင်းလိုအပ်ချက်အရ ထူးခြားသည့် ခေါင်းဆောင်တစ်ဦး ပေါ်ပေါက်ခဲ့သည်။ ထိုပုဂ္ဂိုလ်က ဗိုလ်ချုပ်အောင်ဆန်းပင်။

သူက ကျောင်းသားခေါင်းဆောင်ဘဝ၊ သခင်ဘဝ စသည်ဖြင့် ဖြတ်သန်းပြီး လက်နက်ကိုင်တော်လှန်ရေး ခေါင်းဆောင် ဖြစ်ခဲ့သည်။ တပ်မတော်ကို ဖွဲ့စည်းခဲ့သူ။

ကိုယ်ကျင့်တရား ကောင်းမွန်ခြင်း၊ မှန်ကန်ရိုးသားခြင်း၊ ရဲဝန့်သတ္တိရှိခြင်းတို့ကြောင့် ထင်ရှားခဲ့သည်။

မြန်မာနိုင်ငံနှင့် နိုင်ငံသူ၊ နိုင်ငံသားတို့၏ အဓိကလိုအပ်ချက်ဖြစ်သည့် လွတ်လပ်ရေးကို ရယူပေးနိုင်ခဲ့သည်။-

သူက လွတ်လပ်ရေးဖခင်။ လူထုခေါင်းဆောင်၊ တပ်မတော်ဖခင် ဗိုလ်ချုပ်အောင်ဆန်း။

[၃]

နိုင်ငံသည် လွတ်လပ်ရေးရရှိခဲ့သော်လည်း နယ်ချဲ့၏ သပ်လျှိုထိုးနှက်ချက်နှင့် ညီညွတ်မှုတည်ဆောက်ခြင်း အားနည်းသဖြင့် တိုင်းပြည်သည် မငြိမ်သက်ခဲ့။

အစိုးရ အပြောင်းအလဲများခဲ့သည်။ အရေးအခင်းများစွာ သန္ဓေတည်ခဲ့သည်။ ကမ္ဘာ့အရှုပ်ရှုပ်ခ္ဖလည်း စနစ်အပြောင်း

အလဲများနှင့် 'ဒီမိုကရေစီ' ဝေါဟာရ တွင်ကျယ်လာသည်။

ဒီမိုကရေစီနိုင်ငံအဖြစ်သို့ အလိုလို မရောက်နိုင်။ မည်သူကမှလည်း ပေးလို့မရ။ ဒီမိုကရေစီသည် ကိုယ်တိုင် ကျင့်ကြံရသည့် အဖြူရောင် ကြာဖြူပွင့်နှင့်တူသည်။

၈၈ အရေးအခင်းတွင် သူမက 'ဒီမိုကရေစီ ကြာဖြူပွင့်နှယ် ဘွားခနဲ ပေါ်လာသည်။ ထူးခြားသည်က သူမသည် လွတ်လပ်ရေးဖခင်၊ ဗိုလ်ချုပ်အောင်ဆန်း၏ သမီးထွေး။

သူမအမည်က 'အောင်ဆန်းစုကြည်'။

သူမက အနစ်နာခံကာ ကြိုးစားကာ ဖွဲ့လုံ့လအပြည့်နှင့် ဒီမိုကရေစီနှင့် သင့်တော်သည့် စည်းကမ်း၊ ညီညွတ်မှုပေါင်းစည်းခြင်းတရားများ ဖြန့်ဝေခဲ့ပြီ။သူတို့က သွေးရင်းသားရင်းများဖြစ်သလို လွတ်လပ်ရေး ကြိုးပမ်းအောင်မြင်ခဲ့သူနှင့် ဒီမိုကရေစီအောင်မြင်ရေးကြိုးပမ်းနေသူ။

ဤစာအုပ်က သူတို့နှစ်ဦးအကြောင်းပုံရိပ်အား တင်ပြခြင်းပင်။ တူညီသည်ရှိသလို မတူညီသည်တွေလည်း ရှိသည်။

မည်သို့ဆိုစေ နိုင်ငံနှင့် ပြည်သူအား ချစ်ခင်မြတ်နိုးစိတ်နှင့် စွမ်းဆောင်နေကြောင်း သိသာသလို စာဖတ်သူတို့အတွက် အကျိုးတစ်စုံတစ်ရာရှိမည်ဟု ယုံသည်။

*စာဖတ်သူများရဲ့*
*နေစိုးထက်*

• • •



ဗိုလ်ချုပ်အောင်ဆန်းနှင့်ဗိုလ်ချုပ်ကတော်
မဟာသီရိသုဓမ္မ ဒေါ်ခင်ကြည်
(လက်ထပ်ပြီးစ အမှတ်တရ)

# ဗိုလ်ချုပ်၏
# ရာဇဝင်တွင်သည့် အငွေ့အသက်

[၁]

ဗိုလ်ချုပ်အောင်ဆန်း၏ အတွင်းစိတ်အရှုပ်ကြားအား လေ့လာရသမျှ ဆရာဒဂုန်တာရာ၏ ရုပ်ပုံလွှာပါ 'အောင်ဆန်း (သို့မဟုတ်) အရိုင်း' အဖွဲ့အနွဲ့သည် အကောင်းဆုံးဖြစ်သလို ပေါ်လွင်ထင်ရှားသည်ဟုလည်း ဆိုရမည်ပင်။

ဆရာဒဂုန်တာရာက ဗိုလ်ချုပ်နှင့်ပတ်သက်၍-
ဂျူဗလီဟောကျောင်းသားများ ညီလာခံတွင် သူ
စကားပြောသည်ကို တွေ့မြင်ကြားနာရသောအခါ
အထင်နှင့်အမြင် ကွာနေသည်ကို တွေ့ရ၏။
ကျွန်တော် ထင်ထားသည်မှာ ကောလိပ်ကျောင်း
သား၊ ရုပ်ဖြောင့်၊ ဂိုက်ကျ စကားပြောကောင်းသူ
ဟု ဖြစ်၏။ အယ်ဒီတာလည်းဖြစ်သဖြင့် အတော်

တွေးထင်ထားလေ၏။ တွေ့ရသည့်အခါ ရုပ်က
လည်းမဖြောင့်၊ စကားပြောလည်း မပြေပြစ်။
သို့ဖြစ်၍ စိတ်ထဲက မကျေနပ်။

ဟု ရေးဖွဲ့သည်။ ကွက်ခနဲ၊ ကွင်းခနဲ မြင်နိုင်သကဲ့သို့ အဖွဲ့တွက ထင်းကနဲ ပေါ်သည်။ ဆရာဒဂုန်တာရာက စာဖတ်ရင်း အရုပ်မြင်အောင် စာပန်းချီချယ်ထားသလား။

ပီပြင်ပါဘိသနှင့်။

သို့နှယ်ပင် သပိတ်မှောက် နှစ်ပတ်လည်နေ့အစည်း အဝေး၌ စစ်ကိုင်းကျောင်းဆောင်မှ အိန္ဒိယကျောင်းသား မစ္စတာ တောမတ်(စ်)က ဥက္ကဋ္ဌဟောင်း မစ္စတာရာရှစ်အား အပြစ်တင် ဖော်ထုတ်တိုက်ခိုက်ရာ ဥက္ကဋ္ဌတာဝန်ယူရသည့် ကိုအောင်ဆန်း က တား၍မရသဖြင့်၊ မစ္စတာတောမတ်စ်အား ကြိမ်းမောင်းပြီး 'ရဲရင်ထွက်' ဟု စိတ်လိုက်မာန်ပါ ပြောပုံကလည်း သရုပ်ပေါ် သည်။ ဗိုလ်ချုပ်အဖွဲ့တွအား ကွက်ခနဲ ကွက်ခနဲ ပေါ်စေသည်။

ဗိုလ်ချုပ်က တစ်စုံတစ်ဦးအား အပြစ်ရှာအရှက်ခွဲသည်ကို မကြိုက်။ လက်စားချေဝါဒအား မုန်းတီးသူ။

[၂]

ဗိုလ်ချုပ်၏ ပင်ကိုစိတ်သဘာဝအား ဆရာဒဂုန်တာရာက ထိုးထွင်းမြင်နိုင်စွမ်း၏။

ပြီးတော့ မြင်တတ်သည်။

တက္ကသိုလ် အက်ဉပဒေပြင်ဆင်ရေးမူကြမ်းအား သမဂ္ဂမှ ပယ်ချခြင်းနှင့်ပတ်သက်၍ ဦးညိုမြက သမဂ္ဂအား အယုံအကြည် မရှိ၊ အဆိုတင်သွင်းတော့ ကိုအောင်ဆန်းက ဥက္ကဋ္ဌထိုင်ခုံမှာ ဦးညိုမြအား ဖိနှိပ်ပြောဆိုခဲ့ကြောင်း၊ နောက်နှစ်ရက်ခန့်ကြာသော် ရှုတ်ချသည့်စကားများအား ပြန်လည် ရုတ်သိမ်းကြောင်းကြေညာချက် ကျောင်းဆောင်အသီးသီး၌ ပေါ်ထွက်ခဲ့ပုံအား ရေးဖွဲ့ရင်း ဗိုလ်ချုပ်က မှားလျှင် ဝန်ခံရဲသူ၊ ဖုံးကွယ်မထားတတ်သူဖြစ်ကြောင်း ပေါ်လွင်စေသည်။

ကျောင်းသားဘဝကလည်း ဗိုလ်ချုပ်သည် အများနှင့်မတူသူ။ ထူးခြားသူဖြစ်သည်။ ဘာမျှ ဂရုစိုက်သူမဟုတ်။ မိမိဆန္ဒအား ရဲဝံ့စွာ ပြောတတ်သူ။ ဝကျသူလည်း ဖြစ်၏။

နှုတ်ဆက်သူက နှုတ်ဆက်သော်လည်း ပြန်ပြောချင်မှပြော၏။ အစဉ်ထာဝရ စဉ်းစားနေသူ။ တစ်စုံတစ်ခုအပေါ် အာရုံစိုက်နေသူ။

တစ်ခုပဲ စဉ်းစားနေသူဖြစ်သဖြင့် တစ်ခါတစ်ရံ ကြောင်သည်လည်း ဖြစ်မည်ပင်။ တို့ဗမာအစည်းအရုံးတွင် သခင်အောင်ဆန်း တာဝန်ယူနေစဉ်က နယ်မှ သခင်များအကြောင်းကိစ္စတစ်ခုနှင့် ရောက်လာပြီး စကားပြောရင်း တစ်ခါတစ်ရံ အပေါ်တက် အိပ်မောကျနေသည်လည်းရှိကြောင်း ဖတ်ရှုရဖူးသည်။

ဗိုလ်ချုပ်က နယ်ချဲ့ဆန့်ကျင်ရေး စိတ်ဓာတ်အပြည့်

ရှိသည်။ လူမျိုး ကျွန်ဖြစ်သည်ကို မနှစ်သက်သလို ကျွန်ပညာရေးစနစ်အားလည်း လိုလားသူမဟုတ်။

ကိုလိုနီပညာရေးစနစ်နှင့်ပတ်သက်၍ လွတ်လပ်ရေးနှင့် ပတ်သက်၍-

"မင်းတို့ အခုသင်နေတာ ကိုလိုနီပညာရေးပဲ၊
ဒီကိုလိုနီပညာရေးစနစ်ကို သပိတ်မှောက်ရမယ်၊
လွတ်လပ်ရေးအတွက် သပိတ်မှောက်ရမယ်"

ဟု ပွင့်လင်းစွာ ပြောခဲ့ကြောင်း ဖတ်ရဖူးသည်။

[၃]

ဗိုလ်ချုပ်၏ ပင်ကိုစိတ်၊ ပင်ကိုသဘာဝအရှုတ္တအကြောင်းနှင့်ပတ်သက်၍ပြောလျှင် ကမ္ဘာ့ကျောင်းသားများ သမဂ္ဂဥက္ကဋ္ဌ ဒေါက်တာ အဒွေရှီးရှားနှင့် တွေ့ဆုံပုံနှင့် မှတ်ချက်က မမေ့နိုင်စရာ။

ကမ္ဘာ့ကျောင်းသားဥက္ကဋ္ဌ ဒေါက်တာအဒွေရှီးရှား မြန်မာနိုင်ငံရောက်တော့ ဗိုလ်ချုပ်နှင့် တွေ့သည်။ သခင်သန်းထွန်းနှင့် တွေ့သည်။

ဒီတုန်းက သခင်သန်းထွန်းသည် လယ်ယာဝန်ကြီး ဆေးတံကြီးခဲ့လို့ ဆက်ဆံရေး ကောင်းသည်။ စကားပြောကောင်းသည်။

ဗိုလ်ချုပ်ကမူ တစ်မျိုး။ စားပွဲမှာ ထိုင်စကားပြောသည်

ထပြောသည်။ လှေကားနပေါ်တက်ပြီး လှေကားပေါ်မှ ပြော သည်။ ဝရန်တာတွင် ရပ်ပြီး ပြောသည်။

ပြီးတော့ အခန်းထဲ ဝင်သွားသည်။ ထွက်မလာတော့။ မည်သူ့ကိုမျှလည်း နှုတ်ဆက်ခြင်းမရှိ။

အများက အားနာကြသည်။ ဗိုလ်ချုပ် ဆက်ဆံရေး မကောင်း၊ လူမှုရေးညံ့သည်ဟု ပြောမည်ကို ကြောက်သည်။

သို့သော် ကမ္ဘာ့ကျော်ကျောင်းသားသမဂ္ဂဥက္ကဋ္ဌ ဒေါက်တာ အဒွေရီးရှားကမူ မကျေမနပ် မဖြစ်ရုံမက-

"ကမ္ဘာမှာ ထင်ရှားတဲ့ ခေါင်းဆောင်တွေဟာ ဒီလိုချည်းပဲ။ သူတို့ဟာ အလုပ်သိပ်များတယ်၊ သူတို့ခေါင်းထဲမှာ နိုင်ငံရေးပဲ ရှိတယ်။ အခု ဗိုလ်ချုပ်မှာလည်း လွတ်လပ်ရေးပဲ စဉ်းစား တယ်။ လုပ်တယ်၊ တခြား ဘာစိတ်မှ မရှိဘူး။ ဒီလို ခေါင်းဆောင်ကောင်းတွေရှိနေလို့ မြန်မာ ပြည်ဟာ မကြာခင် လွတ်လပ်ရေးရမယ်ဆိုတာ အသေအချာပဲ"

ဟု မှတ်ချက်ချသွားကြောင်း မှတ်သားခဲ့ရ၏။

မှန်သည်။

ဗိုလ်ချုပ်က နောက်ဆုံးထွက်သက်အထိ မြန်မာပြည် လွတ်လပ်ရေးရဖို့ မြန်မာလူမျိုးစုတွေ ကျွန်ဘဝက လွတ်မြောက် ဖို့ပဲ ရှိခဲ့သည်။

[၄]

ဆရာဒဂုန်တာရာက ဗိုလ်ချုပ်၏ အရွယ်တွင်နှင့်အသွင်အပြင်နှင့်ပတ်သက်၍-

'သူ့တွင် သိမ်မွေ့ခြင်း မရှိ။ အလှအပကို မမက်မော။ သူသည် ကြမ်းတမ်းသည်။ ရိုင်းသည်။ ဆက်ဆံ ပေါင်းသင်းရေးတွင်ရှိသော ညှိဝတ်ထုံးစံ၊ ယဉ်ကျေးခြင်း စသည်တို့ကို သူသည် လုံးဝ ဂရုမစိုက်။ ဂီတ၊ သဘင်၊ ပန်းချီ စသော အနုပညာများကို မလိုက်စား။ သူ့ကိုယ်သူ အတင်းယဉ်ကျေးအောင် မလုပ်။ သူ၏ နဂိုအတိုင်း ခပ်ရိုင်းရိုင်း၊ ခပ်ကြမ်းကြမ်းပင်။ မပြုမပြင်ဘဲနေသည်။

သူ့တွင် နိုင်ငံရေးဝိညာဉ်အား ပြင်းထန်လှချေ၏။ သူသည် နိုင်ငံရေးတစ်ခုတည်းကိုသာ လုပ်သောသူဖြစ်၏။

သူသည် ရိုင်း၏။ ကြမ်း၏။ ကြောင်၏။ ကိစ္စမရှိ။ သူသည် ညှိခန်းဆောင်မှ ဂုဏ်သရေရှိ လူကြီးလူကောင်း မဟုတ်။

တစ်ခုတည်းသော ယုံကြည်ချက်နှင့် တစ်ခုတည်းကိုသာ မဲ၍လုပ်သော နိုင်ငံရေးသတ္တဝါ ဖြစ်သည်။'

ဒဂုန်တာရာ၏ အရေးအဖွဲ့က ဗိုလ်ချုပ်၏ အဖြူတွဲအသွင်အပြင်ကို မသိမီလိုက်သူတွေ ထင်းခနဲ မြင်လာစေရန် ရေးသားပြခဲ့၏။

စင်စစ် ဗိုလ်ချုပ်က ထူးခြားသူဖြစ်သကဲ့သို့ ဗိုလ်ချုပ်၏ ရာဇဝင်ကလည်း ပြောမကုန်နိုင်။ ပြောကုန်နိုင်ဖွယ် မရှိ။

ဗိုလ်ချုပ်တွင် ပြောမကုန်သည့် သတိရဖွယ်အချက်များစွာ ရှိသည်။ ဗိုလ်ချုပ်က သူတကာ ယှဉ်တုမမီနိုင်သည့် ဝီရိယ၊ ဉာဏအား သူရသတ္တိစွမ်းအား များစွာရှိရုံမက ကိုယ်ကျိုးမဖက်သူစစ်စစ်။

ပြောရလျှင် သူ့အတွက် ဘာမျှလုပ်ယူမသွားသည့် နိုင်ငံရေးကိုယ်ကျင့်တရား ကြီးမားသူလည်း ဖြစ်သည်။

ဗိုလ်ချုပ်…

သူက ရဲဘော်များနှင့် တစ်အိုးတည်းစား၊ တပြားတည်းအိပ်သူ။ အခွင့်ထူးခံမဟုတ်။ အခွင့်ထူးခံမဟုတ်ကြောင်း ငါးမူးတန်းက ရုပ်ရှင်ကြည့်ခြင်းနှင့် သက်သေပြရမည်။

"ကြည်ရေ…ပဲပြုတ်နံပြားရရင် စားချင်တယ်"

ဟုဆိုပုံက ဇနီးမယားကို ကြင်နာသူ၊ မဟာယောကျ်ားဝါဒ မကျင့်သုံးသူ။ ချွေတာခြိုးခြံသူဖြစ်ကြောင်း ပေါ်လွင်သည်။ ပြီးတော့ စာနာထောက်ထားစိတ်လည်း အပြည့်ရှိသူ။

ပြီးတော့ အရက်မူးလွန်၍ ကားမမောင်းနိုင်သည့် တပည့်ရဲဘော်ကျော်စိန်အပေါ် ခွင့်လွှတ်နားလည်နိုင်သူ။

ဒါတင်လားဆိုမူ မဟုတ်။

မုသားစကားဆိုခြင်းနှင့်ပတ်သက်၍ မကြိုက်သလို မိခင်စကားများသည်ကိုပင် လက်မခံဘဲ ပြတ်သားရဲဝံ့စွာ တုံ့ပြန်သူ။

မှန်သည်။

ဗိုလ်ချုပ်က အတုယူဖွယ်၊ စံပြခေါင်းဆောင်။

ဗိုလ်ချုပ်သည် နောက်ဆုံးထွက်သက်အထိ လွတ်လပ်ရေးအတွက် အလုပ်လုပ်ခဲ့သလို မျှော်လင့်ချက်နှင့် အလုပ်မလုပ်သူမှန်း သိသာသည်။

"လွတ်လပ်ရေးရရင် စာရေးဆရာ လုပ်မယ်"

ဟု ကြွေးကြော်ကြေညာခဲ့သူ။ ဒါကပင် အခွင့်အရေး မယူလိုကြောင်း၊ အာဏာမမက်ကြောင်း၊ ပြည်သူဘဝနှင့် တစ်သားတည်းရှိသည့် စာရေးဆရာဘဝ မြတ်နိုးကြောင်း သာဓကပြယုဂ်ဖြစ်သည်။

ထို့အတူ ဗိုလ်ချုပ်စရိုက်က ပြည်သူနှင့် နီးကပ်စွာနေပြီး ပြည်သူ၏ ဓမ္မနှင့် ယှဉ်တွဲရှင်သန်နေသူဘဝ မြတ်နိုးသူဟု ဆိုလျှင်လည်း မှားမည်မဟုတ်။

[၅]

စစ်ကြီးအတွင်းက ပြီးပြတ်အောင် ရေးမသွားနိုင်ခဲ့သည့် ကိုယ်ရေးအတ္ထုပ္ပတ္တိတစ်ပိုင်းတစ်စ၌မူ ဗိုလ်ချုပ်က-

'လူရိုင်းက ကြမ်း၏၊ ခက်ထန်၏။ သို့သော်

ဖြူးဖြောင့်၏၊ တည်ကြည်၏၊ လွတ်လပ်၏၊
ကျန်းမာ၏၊ သန်စွမ်း၏။
အင်မတန် စိုပြေလန်းဆန်းသောဘဝဟု
ကျွန်တော် ယူဆသည်။
မြန်မာပြည်ရှိလူတွေ လူရိုင်းဘဝရောက်
ချင်ရောက်သွားပါစေ။
လွတ်လပ်စွာ ခေါင်းဆောင်နေရမည်ဆို
လျှင် မလွတ်လပ်သော လူယဉ်ကျေးဘဝထက်
ကျွန်တော် အဆတစ်ရာ ကြိုက်သည်၊ နှစ်သက်
သည်'

ဟု စိတ်ပျက်ကိုယ်လွတ် ဆန္ဒအတိုင်း ရေးဖွဲ့ခဲ့၏။

ပြောရလျှင် ဆရာဒဂုန်တာရာ ဆိုညွှန်းသော 'အရိုင်း' သည် ဗိုလ်ချုပ်ကိုယ်တိုင် နှစ်သက်သည့်အရိုင်း ဖြစ်၏။ ထိုထို သောအရိုင်းက အတ္တနှင့်ယှဉ်သောအရိုင်း မဟုတ်။

စွန့်လွှတ်သောစိတ်၊ ကိုယ်ကျိုးမငဲ့သောစိတ်နှင့် ထာဝရ ရိုးဖြောင့်မှန်ကန်သည့် 'အရိုင်း' သာဖြစ်သည်ဟု ဆိုရမည် ဖြစ်သည်။

☆ ☆ ☆



အောင်ဆန်းစုကြည် ငယ်စဉ်က
နှင့်
ယခု အောင်ဆန်းစုကြည်



# သူမ
# သို့မဟုတ်
# ပွင့်လင်းရိုးသားသူ

[၁]

လူဆိုတာ ဆိုးချင်ဆိုးမယ်၊ ကောင်းချင်ကောင်းမယ်။ ဆိုးခြင်း၊ ကောင်းခြင်းဆိုတာ အဓိက မဟုတ်ဘူး။

အဓိကက 'လူရယ်လို့ဖြစ်လာလို့ရှိရင် ပြုပြင်ရသူဖြစ်ဖို့ လိုတယ်' ဟု သူမ ပြောခဲ့သည်ကို အမှတ်ရသည်။

သည်စကားသည် လူတိုင်း နှလုံးသွင်းလိုက်နာရမည့် စကား ဖြစ်သည်။ လူ့သဘာဝအရ လူတို့သည် ကောင်းလျှင် ချီးမွမ်းပြီး ဆိုးကွက်ရှိပြီဆိုလျှင် ပြစ်တင်ရှုတ်ချကြစမြဲ။

စင်စစ်မူ လူ့ဘဝ၌ အမှန်နှင့်အမှားဆိုသည် ရှိစမြဲ။ မှန်သူကိုသာ အကောင်းပြောပြီး မှားခဲ့သူတစ်ဦးအား အမှား ကျူးလွန်သူ၊ ဆိုးသူဟု သတ်မှတ်နေမည်ဆိုလျှင် ဘယ်မှာ မှန်မည်နည်း။

အောင်ဆန်းစုကြည်၏ ယုံကြည်ချက်၊ ခံယူချက်အား ကျွန်တော်တို့ အလေးဂရုပြုရမည်။ လူသည် သဘာဝ သဘော တရားအရ မှားချင်မှားမည်။ မှန်ချင်မှန်မည်။

အချို့က မှန်နေရာမှ မှားသွားတတ်သည်။ မှားခဲ့သည်လည်း ရှိသည်။ ထို့အတူ အချို့က အမှားကျူးလွန်ခဲ့သူဖြစ်သော်လည်း အမှားကို မှားမှန်းသိပြီး အမှန်မြင်ပြီး ကောင်းသွားသူတွေ အများကြီး ရှိသည်။

ဤလောကတွင် ဒွန္ဒဓေး ဖြစ်သည်။ ထို့ကြောင့် လူတို့အား ရှုမြင်ရာတွင် တရားသေ သတ်မှတ်ခြင်းမှာ အမှန်တရား မဟုတ်ဟု ပညာရှိများက ဆိုမိန့်ညွှန်ပြခဲ့၏။

မှန်သည်။ လောက၌ အကောင်းတိုင် ထာဝရ အကောင်း မဖြစ်နိုင်သလို အဆိုးရှိသူတိုင်း ထာဝရ အဆိုးဟု မသတ်မှတ်သင့်။ ပြုပြင်ပြောင်းလဲနိုင်စွမ်းသော၊ အမှန်အမှားကို ပိုင်းခြားဝေဖန်တတ်သူကိုသာ ထာဝရ လူကောင်းဟု သတ်မှတ်ရမည် ဖြစ်သည်။

[၂]

ကျွန်တော်က သမိုင်းကို စိတ်ဝင်စားသူ၊ စာပေနှင့် အသက် မွေးသူပီပီ မြန်မာနိုင်ငံရေးသမိုင်းစဉ်များ၊ နိုင်ငံရပ်ခြား သမိုင်းစဉ်မှ လူပုဂ္ဂိုလ်များအကြောင်းအား စာပန်းချီ ချယ်သခဲ့သည်။

ကျွန်တော်သည် ဗိုလ်ချုပ်အောင်ဆန်းအား လေးစား ကြည်ညိုသူပီပီ ဗိုလ်ချုပ်အောင်ဆန်း၏ နိုင်ငံလွတ်လပ်ရေး အတွက် လှုပ်ရှားဖြတ်သန်းခဲ့သည့်ဖြစ်စဉ်များအား လျှပ်တပြက် ပုံရိပ်အသွင် ရေးသားခဲ့သည်။

ဗိုလ်ချုပ်အား လေးစားသလို ဗိုလ်ချုပ်မိသားစုအားလည်း လေးစားခဲ့သဖြင့် လေ့လာခဲ့သည်။

ဗိုလ်ချုပ်အကြောင်း၊ ဗိုလ်ချုပ်ကတော်အကြောင်းများအား စာပန်းချီ ချယ်သခဲ့သည်။ အချို့က စာပေစိစစ်ရေးမှ ခွင့်ပြုချက် ရပြီး ထုတ်ဝေပြီးဖြစ်သလို အချို့က ခွင့်ပြုချက် မရသေးသဖြင့် ထုတ်ဝေခြင်း မပြုနိုင်သေး။ စာဖတ်သူလက်သို့ မရောက်သေး ပေ။

အောင်ဆန်းစုကြည်အကြောင်းနှင့်ပတ်သက်၍ စာပေ စိစစ်ရေးမှ ခွင့်ပြုချက်ရသဖြင့် ထုတ်ဝေခဲ့ပြီ ဖြစ်သည်။ သည့် အခါ ကျွန်တော် ဝေဖန်ခံခဲ့ရသည်။ အွန်လိုင်းပေါ်မှ ကျွန်တော် ဟာ ပုဂ္ဂိုလ်ရေး သိက္ခာချသူအဖြစ် စွပ်စွဲသူလည်း ရှိခဲ့သည်။ ကိစ္စ မရှိ။ ဒါက တစ်ဦးချင်းပုဂ္ဂလိက အမြင်ပင်။

တိကျစွာ ပြောရလျှင် ပုဂ္ဂိုလ်ရေး ကိုးကွယ်တတ်သူများ ပြုတတ်သည့်အတိုင်း ပြုမူခြင်းဟု ဆိုရမည်။ ပုဂ္ဂိုလ်ရေး ကိုးကွယ်သူသည် မျက်စိမှိတ်၍ တဖက်သတ် မြင်သူပင်။ ထိုသူ များတွင် အမှန်တရားနှင့် သမိုင်းကို မှန်ကန်စွာ မြင်တတ်ခြင်း မရှိ။ အကောင်းမြင်ဝါဒ မရှိ။

သို့ကြောင့် ကျွန်တော့်စာအုပ်အား မှန်ကန်စွာ ရှုမြင်နိုင်ခြင်းမရှိခြင်း ဖြစ်သည်။ လောကမှာတော ဖြစ်လေ့ဖြစ်ထရှိသဖြင့် အပြစ်မမြင်ပါ။

[၃]

လူပုဂ္ဂိုလ်တစ်ဦးအကြောင်းရေးလျှင် သူ၏ဘဝ ဖြတ်သန်းမှုအား မှန်ကန်စွာ ရှုမြင်ရသည်။ သမိုင်းတွင် ဆင်ဆာမရှိဟု ရှိ၏။

အကောင်းမြင်ဝါဒ ရှေးရှုရမည်။

လူပုဂ္ဂိုလ်တစ်ဦးအကြောင်းရေးလျှင် သူ့အကြောင်းသူ့ဖြတ်သန်းမှုပုံရိပ် မှန်ဖို့လိုသည်။ လိုတိုးပိုလျှော့လုပ်ခြင်း၊ ဖိဖော့ခြင်းသည် မဖြစ်သင့်သော အကြောင်းတရားပင်။

ကျွန်တော်က အောင်ဆန်းစုကြည်၏ ဖြတ်သန်းမှုခရီးအား စဉ်ဆက်မပြတ် လေ့လာခဲ့သည်။

အနောက်တိုင်း သိုးဆောင်းစကားတွင်-

'ကိုယ့်အကြောင်းကိုယ်သိသည်ဟု ဆိုကြသော်
လည်း လူတစ်ယောက်၏ အမှန်အမှားနှင့် ချို့
ယွင်းချက်ကိုက ပတ်ဝန်းကျင်က ပိုသိသည်'

ဟု ညွှန်ပြခဲ့သည်။

သူသည် တစ်ခါတစ်ရံ ဆန္ဒကြောင့်ဖြစ်စေ၊ ပတ်ဝန်းကျင်အခြေအနေကြောင့်ဖြစ်စေ လုပ်ဖြစ်ခဲ့သည်များ ရှိသည်။

ထို့ကြောင့် အချို့သည့် အမှန်တရား မြတ်နိုးသော်လည်း အမှား ကျူးလွန်ဖြစ်ခဲ့သည်များ ရှိခဲ့သည်။

'ပတ်ဝန်းကျင်စကားသည် ဥပေက္ခာပြုရန်
မဟုတ်။ လိုက်နာရန်၊ စိုးရွံ့ရန် မဟုတ်။
ဆင်ခြင်သုံးသပ်ပြုပြင်တတ်ရန် လိုသည်'

ဟု ဆိုမိန့်ချက် ရှိသည်။

ကျွန်တော်၏စာအုပ်တွင် အောင်ဆန်းစုကြည်အား ၁၉၈၈ မှ ၁၉၉၀ ရွေးကောက်ပွဲမတိုင်မီကာလ အခြေအနေနှင့်ပတ်သက်၍ သုံးသပ်တင်ပြခဲ့သည်မှာ အမှန်တကယ် ဖြစ်ခဲ့သည့်ဖြစ်စဉ်များ ဖြစ်သည်။

ပုဂ္ဂိုလ်ရေးတိုက်ခိုက်ခြင်း မဟုတ်သလို စာပေသမားတစ်ဦးပီပီ သမိုင်းဖြစ်ရပ်မှန်နှင့် ထိုစဉ်က ပြည်သူ့အသံမှန်အား သိစေလိုသည့်ဆန္ဒနှင့် ရေးသားခဲ့ခြင်း ဖြစ်သည်။

'မိမိလုပ်ရပ်သည် မိမိသမိုင်းဖြစ်သည်'

ဟု ဂေါ်ဂီက ဆိုမိန့်ဖူး၏။

အောင်ဆန်းစုကြည်သည် သူ့သမိုင်းအား မရိုင်းစေရန် ပွင့်လင်း ရိုးသားသူပီပီ ၂၀၁၀ ခုနှစ် နေအိမ်အကျယ်ချုပ်မှ လွတ်စဉ် သက်သေပြခဲ့ပြီ။

'ထိပ်တိုက်ရင်ဆိုင်ခြင်း၊ အာဏာဖီဆန်ခြင်း' လမ်းစဉ်မှ ခွဲထွက်ကာ ပြုပြင်ပြောင်းလဲခြင်း အမှန်တရားစိတ်နှင့် အမျိုးသားပြန်လည်သင့်မြတ်ရင်ကြားစေ့ရေး၊ ငြိမ်းချမ်းရေး

ခရီးအား လျှောက်လှမ်းပြခဲ့သည်မှာ သက်သေဖြစ်သည်။

ရိုးသားပွင့်လင်းသူသည် အမှားအမှန်ကို ဝေဖန်ပိုင်းခြား၏။ ပြုပြင်သင့်လျှင် ပြုပြင်၏။ ပြောင်းလဲသင့်လျှင် ပြောင်းလဲ၏။ ထိုသူက တိုင်းပြည်အတွက် အဖိုးထိုက်သူတည်း။

မှန်သည်။ သူသာ ပြုပြင်ပြောင်းလဲခဲ့ပြီ။

သူမကား····။

☆ ☆ ☆

## အမှတ်တရ ဗိုလ်ချုပ်ဘဝ
## မှတ်တမ်းအကျဉ်း

ပြည်ထောင်စုမြန်မာနိုင်ငံ၏ ဖခင်လည်းဖြစ်၊ မြန်မာနိုင်ငံ၏ လွတ်လပ်ရေးဗိသုကာလည်းဖြစ်သည့် ဗိုလ်ချုပ်အောင်ဆန်း (ငယ်မည်ဇာတာရက်ချုပ်အရ ထိန်လင်း) အား သက္ကရာဇ် ၁၂၇၆ ခုနှစ်၊ တပေါင်းလဆန်း (၁) ရက် (၁၉၁၅ ခု၊ ဖေဖော်ဝါရီလ ၁၃ ရက်၊ စနေနေ့) ၌ မကွေးခရိုင်၊ နတ်မောက်မြို့ အဘဖြစ်သူ အမိန့်တော်ရရှေ့နေ ဦးဖာ၊ ဒေါ်စုတို့မှ ဖွားမြင်သည်။

သီပေါအရှင် ပါတော်မူပြီး မြို့လုလင်မှ 'ဗိုလ်လရောင်' အမည်နှင့် ဗိုလ်ဝင်ခံကာ နယ်ချဲ့ဗြိတိသျှတို့အား အသက်စွန့်တော်လှန်ခဲ့သူ။ ရာထူးအာဏာ မမက်ဘဲ 'ကုလားကျွန်ဖြစ်ရခြင်းထက် သေရသည်က မြတ်သည်' ဟု ခံယူအသက်စွန့်သွားသည့် ဗိုလ်မင်းရောင်၏မြေး ဖြစ်၏။

အသက် (၇) နှစ်အရွယ်၌ နတ်မောက်မြို့၊ ဆရာတော် ဦးသောဘိတ ဘုန်းတော်ကြီးကျောင်း၌ ပညာစတင်သင်ကြားပြီး အသက် (၁၄) နှစ်အရွယ်တွင် ရေနံချောင်းမြို့ အမျိုးသား အထက်တန်းကျောင်းသို့ ကူးပြောင်းပညာသင်ကြားခဲ့သည်။

အသက် (၁၈) နှစ်၊ ၁၉၃၂ ခုနှစ်တွင် အထက်တန်း ပညာ အောင်မြင်ခဲ့သည်။ အထက်တန်းကျောင်းသားအဖြစ် တန်းကျော်တက်ရခြင်း၊ ပညာသင်ဆုရခြင်းများ ရှိခဲ့သည်။

၁၉၃၂ ခုနှစ်၊ ဇွန်လ၌ ရန်ကုန်တက္ကသိုလ်သို့ ရောက်ခဲ့ သည်။

၁၉၃၅ ခုနှစ်၌ တက္ကသိုလ်သမဂ္ဂအမှုဆောင်နှင့် သမဂ္ဂ မှ ထုတ်ဝေသည့် အိုးဝေစာစောင် စာတည်းအဖြစ် ဆောင်ရွက် ခဲ့သည်။

၁၉၃၆-၁၉၃၇ ခုနှစ်၌ တက္ကသိုလ်ကျောင်းသားသမဂ္ဂ ဒုတိယဥက္ကဋ္ဌအဖြစ် ရွေးချယ်တင်မြှောက်ခြင်း ခံရပြီးနောက် ၁၉၃၇-၃၈ ခုနှစ်တွင် မြန်မာနိုင်ငံရေးဆိုင်ရာ ကျောင်းသား သမဂ္ဂ ဥက္ကဋ္ဌအဖြစ် ရွေးချယ်တင်မြှောက်ခြင်း ခံရသည်။

(အိုးဝေစာစောင် စာတည်းအဖြစ် ဆောင်ရွက်စဉ် ယမမင်း (ဦးညိုမြ) ၏ 'ခွေးသရမ်းကြီး လွတ်နေပြီ' ဆောင်းပါးကြောင့် ကျောင်းထုတ်ခံရပြီး ကျောင်းသားသပိတ် ပေါ်ပေါက်ခဲ့သည်။ ထိုသပိတ်ကြောင့် တက္ကသိုလ်ဥပဒေ ပြင်ဆင်နိုင်ခဲ့သည်။)

၁၉၃၈ ခုနှစ်၌ မြန်မာနိုင်ငံရေးဆိုင်ရာ ကျောင်းသား

သမဂ္ဂမှ နုတ်ထွက်ပြီး တို့ဗမာအစည်းအရုံးသို့ ဝင်သည်။ သခင်အောင်ဆန်း အမည်တွင်သည်။ အတွင်းရေးမှူးတာဝန်ယူရသည်။

အဖွဲ့အစည်းများ ပူးပေါင်း၍ 'ဗမာ့ထွက်ရပ်ဂိုဏ်း' ထူထောင်တော့သည်။ အတွင်းရေးမှူးတာဝန်ယူရသည်။

၁၉၃၉ ခုနှစ်၊ ဒုတိယကမ္ဘာစစ်ဖြစ်ပွားရာ မြန်မာနိုင်ငံနယ်ချဲ့လက်အောက်မှ ရှင်းရှင်းကြီး လွတ်မြောက်ရမည်ဟူသော အချိန်ဖြင့် ၁၉၄၀ ပြည့်နှစ်၊ ဩဂုတ်လ၌ ပြည်ပအကူအညီယူ၍ လက်နက်ကိုင်တော်လှန်ရေး ဆင်နွှဲရန် ပြည်ပသို့ ထွက်ခဲ့သည်။

ဂျပန်နှင့် အဆက်အသွယ်ရပြီး ဂျပန်အစိုးရ၏ ကတိအတိုင်း ရဲဘော်သုံးကျိပ်နှင့်အတူ စစ်ပညာအား ပုင်ပန်းကြီးစွာ သင်ကြားခဲ့သည်။

၁၉၄၁ ခုနှစ်၊ ဒီဇင်ဘာလ၌ ထိုင်းနိုင်ငံ၊ ဘန်ကောက်မြို့၌ ရဲဘော်သုံးကျိပ်နှင့်အတူ 'ဗမာ့လွတ်လပ်ရေးတပ်မတော်' အား ဖွဲ့စည်းခဲ့သည်။

ဗိုလ်ချုပ်အောင်ဆန်းသည် ရဲဘော်သုံးကျိပ်ဝင်အဖြစ် 'ဗိုလ်တေဇ' အမည်ခံယူသည်။

ထို့နောက် ဗိုလ်ချုပ်အောင်ဆန်း ကြီးမှူးဦးဆောင်သည့် 'ဗမာ့လွတ်လပ်ရေးတပ်မတော်' သည် ဂျပန်တပ်မတော်နှင့်အတူ နယ်ချဲ့တို့လက်မှ မြန်မာနိုင်ငံအား ပြန်လည်သိမ်းပိုက်ယူနိုင်ခဲ့သည်။

သို့သော် ဂျပန်စစ်တပ်သည် ကတိဖောက်ဖျက်ခဲ့ရုံမက မြန်မာပြည်သူလူထုအား ညှဉ်းပန်းနှိပ်စက်မှုများပြုသည်ကို မြင်တွေ့ရသဖြင့် ပြည်သူထိလျှင် မချိအောင် နာတတ်သူဗိုလ်ချုပ် ဗမာတပ်မတော်နှင့် ပြည်သူတို့အား ဦးဆောင်လျက် ၁၉၄၃ ခုနှစ်၊ မတ်လ (၂၇) ရက်နေ့တွင် ဖက်ဆစ်ဂျပန်တို့အား အတိအလင်းစစ်ကြေညာပြီး မြန်မာပြည်သူလူထုအား ဖက်ဆစ်တို့၏ ရက်စက်ကြမ်းကြုတ်မှုဘေးမှ ကယ်တင်ခဲ့သည်။

ဖက်ဆစ်တပ်တို့ ဆုတ်ခွာပြီး ဗြိတိသျှမဟာမိတ်တပ်များ ပြန်ဝင်လာခဲ့သလို မြန်မာနိုင်ငံအား ကျွန်သက်ရှည်စေမည့် 'စက္ကူဖြူစာတမ်း' အား ယူဆောင်လာပြန်သဖြင့် ဗိုလ်ချုပ်အောင်ဆန်း ဦးစီးပြီး ဖက်ဆစ်အား တော်လှန်ခဲ့သည့် ဖဆပလ (ခေါ်) ဖက်ဆစ်ဆန့်ကျင်ရေး၊ ပြည်သူ့လွတ်လပ်ရေးအဖွဲ့ချုပ်ကြီးအား အမျိုးသားတပ်ပေါင်းစုအဖွဲ့ကြီးအဖြစ် ဖွဲ့စည်းပြီး လွတ်လပ်ရေးအောင်လံ လွှင့်၍ လွတ်လပ်ရေးတိုက်ပွဲ ဆင်နွှဲခဲ့သည်။

တပ်မတော်မှ ထွက်ပြီး ဖဆပလအဖွဲ့ချုပ်ဥက္ကဋ္ဌအဖြစ် တာဝန်ယူစဉ် ဗြိတိသျှအစိုးရ၏ ဖိတ်မန္တကပြုချက်အရ ဗိုလ်ချုပ်ကိုယ်တိုင် ပြည်သူတို့အား 'ခါးတောင်းကျိုက် မဖြုတ်ကြနှင့်' ဟု အသင့်ရှိရန် အမှာစကားပါးပြီး အင်္ဂလန်ပြည်၊ လန်ဒန်မြို့သို့ လွတ်လပ်ရေးအရေးဆိုရန် ထွက်ခွာခဲ့သည်။

လွတ်လပ်ရေး အရေးဆိုပြီး 'အောင်ဆန်းအက်တလီ စာချုပ်' ချုပ်ဆိုပြီး မြန်မာပြည်သူလူထုအား 'တစ်နှစ်အတွင်း

လွတ်လပ်ရေး ရရမည်' ဟု ရဲရဲတောက် ကတိပြုခဲ့သည်။

ထို့နောက် ပင်လုံတွင် တိုင်းရင်းသားခေါင်းဆောင်များနှင့် တွေ့ဆုံကာ တိုင်းရင်းသား စည်းလုံးညီညွတ်ရေး နိုင်မြဲရန် အုတ်မြစ်ဖြစ်သည့် ပင်လုံကွန်ဖရင့်မှ ပင်လုံစာချုပ်အား ချုပ်ဆို ခဲ့သည်။

*(ဗိုလ်ချုပ်အောင်ဆန်းနှင့် တိုင်းရင်းသား ခေါင်း ဆောင်များ၏ ဒုတိယ ပင်လုံကွန်ဖရင့်မှာ ပင်လုံ စာချုပ်အား ချုပ်ဆိုနိုင်ခဲ့သလို ဘုရင်ခံနှင့် ဂျွန် ဦးစောတို့၏ နယ်ချဲ့အလိုကျ ပထမ ပင်လုံကွန် ဖရင့်၏ အစီအရင်အားလုံး ပျက်ပြယ်ခဲ့သည်)*

ထို့နောက် ဗိုလ်ချုပ်အောင်ဆန်းသည် ပင်လုံအုတ်မြစ်နှင့် အတူ နိုင်ငံလုံးရှိ ကိုယ်စလှယ်များ ပါဝင်သည့် တိုင်းပြည်ပြု လွှတ်တော်ကို ရွေးကောက်ဖွဲ့စည်း၍ ကမ္ဘာက ချီးကျူးရသည့် တိုင်းရင်းသားစည်းလုံးညီညွတ်ရေးနှင့် ဒီမိုကရေစီအခြေခံ အုတ် မြစ်အခြေခံရှိသည့် ပြည်ထောင်စုမြန်မာနိုင်ငံတော် ဖွဲ့စည်း အုပ်ချုပ်ပုံ အခြေခံဥပဒေအား ရေးဆွဲခဲ့သည်။

ဗိုလ်ချုပ်အောင်ဆန်းသည် ပြည်သူလူထုတစ်ရပ်လုံးအား လမ်းပြခေါင်းဆောင်လျက် မိမိ၏ အသက်စည်းစိမ်အား တစ်ချက်ကလေးမျှ မငဲ့ကွက်ဘဲ ပြည်သူလူထုအကျိုး၊ နိုင်ငံ အကျိုးအား မျက်မှောက်ပြုလျက် တစ်မိနစ်၊ တစ်စက္ကန့်မျှ နားသည်မရှိ။

ပြင်းထန်စွာ ကြိုးပမ်းဆောင်ရွက်လျက်ရှိစဉ် ၁၉၄၇ ခုနှစ်၊ ဇူလိုင်လ (၁၉) ရက်နေ့၌ နယ်ချဲ့လက်ပါးစေ မသမာသူ တို့၏လက်ချက်ကြောင့် ကျဆုံးခဲ့ရ၏။

ပြည်သူတို့၏ဖခင်၊ ကျေးဇူးရှင်ကြီး ဗိုလ်ချုပ်အောင်ဆန်း က ဘဝတစ်ပါးသို့ ပြောင်းကွယ်သွားရပြီ ဖြစ်သတည်း။

☆ ☆ ☆



ဒီမိုကရေစီ ဖော်ဆောင်နေသူ
အောင်ဆန်းစုကြည်



## သူမ
## သို့မဟုတ်
# လမ်းသစ်ထွင်၍ ခရီးနှင်နေသူ

[၁]

"ကျွန်မတို့ခေတ်မှာ ဘယ်ခေတ်မှာမှ မမျှော်မှန်းနိုင်ခဲ့တဲ့ ငြိမ်းချမ်းရေး အခွင့်အရေးကို ဖော်ဆောင်ခွင့်ရှိနေပြီ"

ဟု သူမ ပြောခဲ့သည်။

မှန်သည်။

ငြိမ်းချမ်းရေးသည် လူတိုင်း လိုလားသည့်အရေး ဖြစ်၏။ ငြိမ်းချမ်းရေးသည် အရာရာအား အောင်မြင်ရန် လုပ်နိုင်စွမ်းရှိသည့်အခြေအနေလည်း ဖြစ်သည်။

ဆူပူမှုသည် တည်ငြိမ်အေးချမ်းမှုအား မဖြစ်နိုင်သလို ငြိမ်းချမ်းရေး၏ ဆန့်ကျင်ဘက်လည်း ဖြစ်၏။

ထိပ်တိုက် ရင်ဆိုင်ခြင်း၊ အာဏာ ဖီဆန်ခြင်းသည် တည်ငြိမ်အေးချမ်းမှုအား တည်ဆောက်နိုင်စွမ်း မရှိ။ ဒါကို သူ သိပြီဟု ဆိုရမည်။

"ကျွန်မဟာ ပြည်သူ့အကျိုးကို အစဉ် ရှေ့ရှုနေမှာပါ"

ဟု သူ ဆိုခဲ့သလို ပြည်သူ့အကျိုး မဖြစ်နိုင်သည့်ကိစ္စမှန်သမျှအား စွန့်လွှတ်ခဲ့သည်။ ပြည်သူ့ဆန္ဒမှန်၊ ပြည်သူ့အသံမှန်အား ခံစားနားထောင်ပြီး ပြည်သူ့အကျိုးပြုလုပ်ငန်းများ လုပ်နေခဲ့သူ။

[၂]

"ဒါတွေကို လုပ်မပေးသေးဘူး၊ ဒါတွေကို လုပ်ပေးဖို့ လိုတယ်လို့ ပြောနေဖို့ မလိုဘူး။ ကိုယ့်လမ်းကို ကိုယ်ထွင်ရမယ်။ ကိုယ့်လမ်း ကိုယ်ထွင် ကိုယ့်အပင်ကိုယ်စိုက်ပြီး ကျွန်မတို့ ဒီမိုကရေစီနိုင်ငံသစ်ကို တည်ထောင်ရမယ်"

ဟု သူ ဆိုခဲ့သည်။

သူမက ဉယျာဉ်မှူးစိတ်ဓာတ်ရှိသူပင်။ လမ်းသစ်ထွင်၍ ပြည်သစ် တည်လိုသူလည်း ဖြစ်၏။ စွမ်းဆောင်ကြိုးပမ်းလိုစိတ်နှင့် အောင်မြင်မှုပန်းတိုင်အား စိုက်ထူလိုသူသည် ကိုယ်စွမ်းကိုယ်စအား အမိကထား၏။

သူတစ်ပါးအား အားကိုးစိတ်မထား။

ကိုယ့်အားကိုယ်ကိုးသူသာ ဖြစ်သည်။ မှန်သည်။

သူမက လမ်းသစ်ထွင်သူဖြစ်သဖြင့် မိမိကိုယ်မိမိ အားကိုး၏။ ဖွဲလုံ့လ ဝီရိယကို အခြေတည်၏။ ဖြစ်တည်မှုအတွက် အခြေအနေနှင့် အချိန်အခါကို လေ့လာ၏။

ပြည်သူ့အတွက် အကျိုးမရှိနိုင်သည့် ကိစ္စမှန်သမျှအား ရှောင်ရှားခဲ့ပြီ။ ပြုပြင်ပြောင်းလဲခြင်းနှင့် နိုင်ငံရေးဘဝခရီးကို တည်ဆောက်နေပြီဟု ဆိုရမည်။

"ကျွန်မတို့နိုင်ငံရဲ့ ဒီမိုကရေစီကို မေတ္တာ၊ ကရုဏာ၊ မုဒိတာ စတဲ့ဗြဟ္မစိုရ်တရားအပေါ် အခြေခံပြီး တည်ဆောက်ရမယ်"

ဟု ဆိုခဲ့၏။ ထို့အတူ သူမက-

"ကျွန်မတို့ပါတီအနေနဲ့ ပြည်သူ့အကျိုးကို ပြည့်ပြည့်ဝဝ သည်ပိုးထမ်းရွက်နိုင်ဖို့အတွက် ရွေးကောက်ပွဲဝင်မယ်၊ တကယ်တော့ ရွေးကောက်ပွဲဟာ ဒီမိုကရေစီရဲ့ လိုအပ်ချက် တစ်ခုပဲ"

ဟု ဆို၏။

သို့နှယ်ပင် သူမသည် နေအိမ်အကျယ်ချုပ်မှ လွတ်မြောက်ပြီးနောက်ပိုင်း မရပ်မနား အလုပ်လုပ်ခဲ့သည်။ 'ကျွန်မ နေအိမ်အကျယ်ချုပ်မှာ နေရစဉ်က မြန်မာနိုင်ငံရဲ့ နိုင်ငံရေးနဲ့ ပြည်သူ့ဘဝ လိုအပ်ချက်တွေကို လေ့လာခဲ့တယ်၊ ဒီကနေ

ပြည်သူ့ဘဝ လိုအပ်ချက်ကို ဖြည့်ဆည်းနိုင်ဖို့ ကျွန်မ အလုပ်တွေ မနားတမ်းလုပ်နေတာ' ဟု မပြောခဲ့သလို သူမ၏ လုပ်ဆောင်ချက်များက သက်သေခံနေသည်။

[၃]

သူမက အေးဆေးတည်ငြိမ်သောဘဝဖြင့် နှစ်ပေါင်းများစွာ ဖြတ်သန်းခဲ့သည်။ မိမိဘဝတိုးတက်မှု၊ မိသားစုဘဝငြိမ်းချမ်းခြင်းများနှင့် အေးဆေးတည်ငြိမ်စွာ ရပ်တည်ခဲ့သည်။

သို့သော် သူမက ဖအေတူသမီး၊ အမေတူသမီး ဖြစ်သည်။ သူမတွင် နိုင်ငံချစ်စိတ်နှင့် ကြင်နာခြင်း ရှိသည်။

မြန်မာပြည်နှင့် အနေဝေခဲ့သော်လည်း မြန်မာပြည်ကိုချစ်သူ။ မိခင်ဖြစ်သူ နာမကျန်းဖြစ်တော့ သူမ မြတ်နိုးသည့် ငြိမ်းချမ်းသော မိသားစုဘဝ ဘဝတိုးတက်မှု အားလုံးအား စွန့်လွှတ်ခဲ့သည်။

သမီးကောင်းရတနာ ပီသစွာ မိခင်နားတွင် တစ်ဖဝါးမခွာနေပြီး ပြုစုခဲ့သည်။ ထိုအချိန် မြန်မာနိုင်ငံမှာ အရေးအခင်းတစ်ခု ဖြစ်သည်။ ၈၈ အရေးအခင်း။

ငွေစက္ကူ တရားမဝင် ကြေညာမှု နောက်ဆက်တွဲ အထွေထွေ မကျေနပ်မှု၊ ကျောင်းသား အရပ်သားရန်ပွဲ၊ ထိုမှ အခြေအနေ ရှုပ်ထွေးခဲ့သည်။

၈၈ အရေးအခင်းက အရှိန်းဆန်ခဲ့ပြီ။

တောမီးလောင် တောကြောင် လက်ခမောင်းခတ်အဖြစ်တွေက အများကြီး။ ၈၈ အရေးအခင်း ရုပ်ပျက်ဆင်းပျက်နိုင်ခဲ့သည်က အမှန်ပင်။ ငြင်းမရ။ မလိုလားအပ်သည့် ပြဿနာတွေ၊ အဖြစ်အပျက်တွေကလည်း အများကြီး။

တပ်ပျက် ဗိုလ်လုပ်သူတွေကလည်း ဒုနှင့်ဒေးပင်။

ထိုအချိန် သူမ နိုင်ငံရေးစင်မြင့်ပေါ်သို့ ရောက်ခဲ့သည်ကမူ ငြင်းမရ။

ဘယ်လို၊ ဘယ်အကြောင်းနှင့် ရောက်ခဲ့သည်ကို ဘုရားမှတစ်ပါး မသိနိုင်။ တစ်ခုရှိသည်က သူမ ဗိုလ်ချုပ်သမီးဖြစ်သည်။ အရိုင်းဆန်သော ၈၈ မြင်ကွင်းသည် သူမကြောင့် အသွင်ပြောင်းသည်ကတော့ အမှန်ပင်။

အရိုင်းဆန်သော၊ ဦးတည်ချက်မဲ့သော ၈၈ အရေးအခင်းသည် ဒီမိုကရေစီအရေးအခင်းအဖြစ်၊ သဏ္ဌာန်ပီပြင်ခဲ့သည်။

၈၈ အရေးအခင်းတွင် သူမ ပါဝင်ခဲ့သလို သူမကြောင့် ၈၈ အရေးအခင်းသည် ဒီမိုကရေစီအရေးအခင်းအဖြစ် ထင်ရှားခဲ့သည်။

သူမသည် သူမ ထွင်ခဲ့သည့် ဒီမိုကရေစီလမ်းတွင် လျှောက်လှမ်းနေဆဲ။

မြန်မာနိုင်ငံအား မေတ္တာ၊ ကရုဏာ၊ မုဒိတာ စသည့် ဗြဟ္မစိုရ်တရားလေးပါးနှင့် ပြည့်စုံသည့် ဒီမိုကရေစီနိုင်ငံထူထောင်ရန် ကြိုးစားနေဆဲ။ ရုန်းကန်လှုပ်ရှားနေဆဲ။

ဒီနေရာတွင် ပြည်သူလူထု တစ်ခု နားလည်ဖို့ လိုသည်။ ဗိုလ်ချုပ်နှင့် ခေါင်းဆောင်များ အသက်သွေးချွေးနှင့် ရယူခဲ့သည့် လွတ်လပ်သော မြန်မာနိုင်ငံတွင် ဒီမိုကရေစီ ထွန်းကားလာရေးအတွက် အောင်ဆန်းစုကြည်က ဖော်ဆောင်ဦးဆောင်ခဲ့သော်လည်း ဒီမိုကရေစီနိုင်ငံ ထူထောင်နိုင်ရန်အတွက် အောင်မြင်နိုင်ရန်အတွက် သူမတစ်ဦးတည်း ဦးဆောင်ရုန်းကန်နေလို့ မရ။ ပြည်သူတွင်လည်း တာဝန်ရှိသည်ပင်။

အောင်မြင်မှုတစ်ခုအတွက် ခေါင်းဆောင်ကောင်း လိုအပ်သလို နောက်လိုက်ကောင်းလည်း လိုအပ်သည်။

ဒီမိုကရေစီနိုင်ငံ ထူထောင်အောင်မြင်မှုအတွက် လူတိုင်းတွင် ဒီမိုကရေစီနှင့် ထိုက်တန်သည့်စိတ်ထားရှိဖို့ လိုသည်။ ကြာပန်းဖြူဖြူကို လက်ညစ်နွမ်းနှင့် ကိုင်၍ မဖြစ်။ မကိုင်သင့်။ ထို့အတူ နောက်လိုက်ကောင်းသည် ခေါင်းဆောင်သဘောနှင့်လုပ်နေသဖြင့် မှားလျှင်မှားနိုင်သည်။

ခေါင်းဆောင်ကို မျက်စိမှိတ် မကိုးကွယ်ပါနှင့်။

မှန်ရာကို ဝေဖန်ပြောဆိုပါ။

အမှားသိမှ အမှန်ပြင်နိုင်မည်။

အမှန်တရားကို ဆုပ်ကိုင်နိုင်မှ အောင်မြင်မှုကို ရနိုင်မည်ဖြစ်သည်။

☆ ☆ ☆



ဗိုလ်ချုပ်အောင်ဆန်းမိသားစု

# ဗိုလ်ချုပ်အောင်ဆန်း
# သို့မဟုတ်
# ပြည်သူကို မှန်ရာတင်ပြသူ

[၁]

"တိုင်းပြည်မှာ ညီညွတ်ရေးဟာ အဓိကလုပ်ငန်းပဲ။ ညီညွတ်ရေးဆိုပေမယ့် တိုင်းပြည်လွတ်လပ်ရေးနဲ့ ထူထောင်ရေးကို အခြေခံအချက်တွေရဲ့ ဆောင်ရွက်ရမယ့် ညီညွတ်ရေးမျိုးကိုသာ ဆိုလိုပါတယ်။"

(ဗိုလ်ချုပ်အောင်ဆန်း)

ဗိုလ်ချုပ်၏ လွတ်လပ်ရေးကြိုးပမ်းမှုသမိုင်းကို လေ့လာသုံးသပ်ကြည့်လျှင် ဗိုလ်ချုပ်က လွတ်လပ်ရေးအတွက် ကိုယ်စွမ်း၊ ဉာဏ်စွမ်းအပြည့်နဲ့ ဆောင်ရွက်လုပ်ကိုင်မှုတွေရှိသလို ညီညွတ်ရေးအတွက် စည်းရုံးရေးလည်း လုပ်သည်။

'သနားသည်းခံ၊ ဝေဖန်ထောက်ရှု၊ ဤခြောက်ခု၊
ကျင့်မှု နယကဂုဏ်'

ဆိုသည့်စကားနှယ် အရာရာ ဆင်ခြင်တုံတရား လက်ကိုင်ထားသည်။ လွတ်လပ်ရေးကြိုးပမ်းမှုကာလတွင် စည်းလုံးညီညွတ်ရေး အဓိက အရေးကြီးကြောင်း၊ လွတ်လပ်ရေးကြိုးပမ်းမှုသည် တစ်ယောက်အားနှင့် ယူ၍ရသည့်အရာ မဟုတ်။

တစ်သောင်းအားနှင့်ယူမှ ရသည့်ကိစ္စ။

ညီညွတ်ပေါင်းစည်းမှုနှင့်မှ ရသည်ကိုသိသဖြင့် အဖွဲ့အစည်းတွေကို စည်းရုံးသိမ်းသွင်းသည်။

ဗိုလ်ချုပ်သည် ဂျပန်ခေတ်အခါက တိုးတိုးတိတ်တိတ်နှင့် 'ဖဆပလအဖွဲ့ချုပ်' အား ဖွဲ့စည်းခဲ့သည်။ သည်အဖွဲ့အစည်းမှာ ကွန်မြူနစ်လည်းပါသည်။

ကွန်မြူနစ်တွေက ရှိခဲ့သော်လည်း ဘာမှမဟုတ်သေး။

'ကွန်မြူနစ်တွေဆိုတာက အင်္ဂလိပ်ဝင်လာရင်
လက်နက်ချလိုက်' ဆိုတဲ့ဝါဒပဲ ကျင့်သုံးတာ။

သမိုင်းကို လေ့လာလျှင် ဗိုလ်ချုပ်ကြောင့် ကွန်မြူနစ်တွေ အရေးပါလာသည်။ သို့သော် ခက်သည်က လက်နက်ကိုင်တော်လှန်ရေး လုပ်ရမယ်ဆိုတော့ သခင်သန်းထွန်းတို့အုပ်စုက အနုပဋိလောမနှင့် မကိုက်ဟု ပြောသေးရဲ့။

သို့သော် ဗိုလ်ချုပ်က မဖြစ်မနေလုပ်တော့ ဂျပန်ကို တော်လှန်ဖို့ တွင်ကျယ်လာတော့ ကွန်မြူနစ်တွေက မြန်းဒိုင်း

ဆိုသလို ကွန်မြူနစ်တွေ နေရာဝင်ယူလာသည်။ ဗိုလ်ချုပ်ကြောင့် အရာဝင်လာသည်ကို ဖုံးကွယ်ထားပြီး နိုင်ငံရေး ဟန်ရေးပြမှုတွေ လုပ်သည်။ ဒါတွေ ဗိုလ်ချုပ် သိသော်လည်း သည်းခံသည်။

"ကျွန်တော်ကလည်း ကွန်မြူနစ်ဝါဒကို မပစ်ပယ်နိုင်တော့ သူတို့နေရာတွေဝင်ယူတာ၊ တက်လာကြတာ ကျွန်တော် မနာလို မဖြစ်ပါဘူး။ သူတို့ပဲ ဟိုဟာလုပ်သလို ဒီဟာလုပ်သလို ပြောတာတွေလည်း မချေပပါဘူး"

ဟု ဗိုလ်ချုပ်က ပြောသည်။

မှန်တော့မှန်သည်။

ဗိုလ်ချုပ်က ခန္တီပါရမီ ပြည့်စုံသူဟု ပြောရလောက်အောင် သည်းခံနိုင်စွမ်းအား ကောင်းသည်။ ကွန်မြူနစ်ပါတီ၏ ညစ်ပတ်မှု၊ ခြေထိုးမှု၊ ကလိမ်ကျမှုပေါင်းများစွာ ကြုံရခံစားခဲ့ရသော်လည်း မကျေနပ်မှုကို အောင့်အည်းသည်းခံသည်။

"အများကြီး မကျေနပ်ပေမယ့် အပြင်ထုတ် မပြောပါဘူး။ အချင်းချင်းလောက်သာ အတွင်းရေးပြောခဲ့တာ၊ အပြင်မထုတ်ပါဘူး"

ဟု ပြောခဲ့သလို-

"သူတို့က ဒီလိုမဟုတ်ဘူး၊ ပေးထားတဲ့ကတိတွေဖျက်၊ အတူတူ ဆုံးဖြတ်တော့တစ်မျိုး၊ လုပ်တော့တစ်မျိုး၊ ဒါတင်မကဘူး၊ မဟာမိတ်

တွေဆီ လူလွှတ်ဖို့ပဲဖြစ်ဖြစ်၊ မဟာမိတ်တွေ
ဆီကရတဲ့ ရွှေငွေလက်နက်အကူအညီဖြစ်ဖြစ်၊
သူတို့ချည်း ကြိတ်လုပ်တယ်၊ အဲ့ဒါနဲ့ မပြီး
သေးဘူး၊ ကျွန်တော်တို့ကိုပဲ မျက်ကန်းမျိုးချစ်
တွေ၊ သွေဖီရေးသမားတွေ၊ ဖက်ဆစ်သမား
တွေ အစရှိသည်ဖြင့် တိုးတိုးတစ်မျိုး၊ ကွယ်ရာ
တစ်မျိုး ဆဲသေးတယ်''

ဟု ပြည်သူသိစေရန် ပြောပြသည်။

[၂]

ဗိုလ်ချုပ်က ပွင့်လင်းသည်။ ပြောစရာရှိလျှင် ဟောဟော ဒိုင်းဒိုင်း၊ ရဲရဲရင့်ရင့် ပြောသည်။

ဗိုလ်ချုပ်ပြောသည့် ကွန်မြူနစ်တွေအကြောင်းက စိတ် ဝင်စားစရာ။

ကွန်မြူနစ်တွေက ဗိုလ်ချုပ်နဲ့တွဲပြီး အတူတူ လုပ်ခဲ့သည် ဆိုသော်လည်း သူတို့ပါတီ ကြီးပွားဖို့အတွက် လက်ဦးမှုရအောင် ဟိုဆိုင်းဘုတ်၊ သည်ဆိုင်းဘုတ်တွေလည်း တင်သည်။

သူတို့ပါတီတလူတွေက ကြိုးကိုင်ပြီး မလိုသူတွေကို ကန်ထုတ်သည်။

''ကျုပ်နှာမည်တို့ကို ရောင်တော်ပြန်သုံးပြီး သူတို့
အားကို စုတယ်။ ဒါကြောင့် လူထုထဲ ရှုပ်ရှစ်

ထွေးထွေးဖြစ်၊ လူထုအစည်းအရုံး စင်ပြိုင်တွေ
ပေါ်ပါတီတွေကလည်း ဟိုကပေါ် ဒီကပေါ်"

မှန်သည်။

ကွန်မြူနစ် ခြေရှုပ်မှုကြောင့် လူထုအစည်းအရုံးများနှင့် ပါတီတွေက များလာသည်။ ကွန်မြူနစ်တွေက ဖဆပလတုန်းကလည်း နေရာယူပြီး အလုပ်လုပ်သည်မဟုတ်။

သို့ကြောင့် ဖဆပလ လုပ်ငန်းများ မတွင်မကျယ် ဖြစ်ခဲ့သည့် သာဓကတွေ ရှိသည်။

ထိုအချိန်က နာမည်ရစရာအလုပ်ဆို ကွန်မြူနစ်ပါတီ အမည်နှင့်လုပ်၍ မဟန်လျှင် ဖဆပလသို့ အပ်သည်။

သည်လိုကိစ္စများစွာရှိခဲ့သော်လည်း ဗိုလ်ချုပ်က သည်းငြီးခံသည်။

"သူတို့လုပ်ပုံတွေ မှုမမှန်လို့ မှားပြီးရင်းမှားခဲ့တာ
သူတို့အမှားတွေလုပ်လို့ ကျုပ်တို့ ဖဆပလ ခဏ
ခဏ ဂယက်ရိုက်ခံရတယ်"

ဟု ပြောသည်။

'ကွန်မြူနစ်တွေက စကားမမှန်ဘူး' ဟု ပြောခဲ့သလို
"သူတို့ဟာ ခုတစ်မျိုး၊ ခုတစ်မျိုးပဲ၊ ဘကြီး
ဘဖေဆိုလည်း သူတို့ပဲ၊ အင်္ဂလိပ်သူလျှို ဘဖေ
ဆိုလည်း သူတို့ပဲ"

ဟု ပြော၏။

ဗိုလ်ချုပ်က ပြည်သူကို တိတိကျကျ ပြောခဲ့သည်။

ငြိမ်းချမ်းစွာ လွတ်လပ်ရေးယူရန် ပြောခဲ့ကြောင်း၊ ခုချက်ချင်း တော်လှန်ရေးလုပ်ရမယ်လို့ ပြောခဲ့ကြောင်းနှင့် လုပ်တော့ မလုပ်ကြကြောင်း၊ လက်ဖဝါးလို လူတွေဖြစ်ကြောင်း စသည်တို့…။

[၃]

တစ်ခုရှိသည်က ဗိုလ်ချုပ်သည် နိုင်ငံရေးလုပ်စားသူ မဟုတ်။ မြန်မာပြည်လွတ်လပ်ခြင်းကို မြန်မာလူမျိုးတွေ ကျွန်ဘဝက လွတ်ချင်လို့ နိုင်ငံရေးလုပ်ခြင်း ဖြစ်သည်။

ဗိုလ်ချုပ်က-

"သတ္တိချင်းစမ်းမယ်ဆိုရင် ဗမာ့လွတ်လပ်ရေးအတွက် တကယ်တမ်းလုပ်တမ်းဆိုရင် ထွက်ခဲ့ပါ၊ မဟိန်းတမ်း မဟောက်တမ်း တကယ်လုပ်တမ်း ပြိုင်ရဲပါတယ်။ ကျုပ်အကြောင်းလည်း ခင်ဗျားတို့ သိတန်သလောက် သိကြမှာပဲ။ ဒါပေမယ့် အကုန်တော့ ဘယ်သူမှ သိကြမှာ မဟုတ်ဘူး။ ကျုပ်လည်း မကြွားချင်ပါဘူး။ ကျုပ် နိုင်ငံရေးလုပ်တာ ကြွားချင်လို့လုပ်တာ မဟုတ်ဘူး။ ဗမာတွေ လွတ်လပ်ရေးရစေချင်လို့ ဗမာတွေ ကောင်းစားစေချင်လို့ လုပ်တာ"

ဟု ပြတ်သားစွာ ကြေညာခဲ့သူ။

မှန်သည်။

ဗိုလ်ချုပ်က လွတ်လပ်ရေးအတွက် အမြတ်ကို မမျှော်ကိုးဘဲ အရှုံးကြီးနှင့်ချည်း ဖြူစင်စွာ လုပ်ခဲ့သူ ဖြစ်သည်။

*၁၉၄၆၊ အောက်တိုဘာ ၂၂ ရက်*
*ည ၇း၁၅ မိနစ်၊ အသံလွှင့်မိန့်ခွန်းအား ခံစားသည်*

☆ ☆ ☆



အဖွဲ့ချုပ်ဥက္ကဋ္ဌ
အောင်ဆန်းစုကြည်

## သူမ
## သို့မဟုတ်
# ပြည်သူအတွက် အမှန်တရားဘက် မျက်နှာမူသူ

[၁]

ပန်းတိုင်တစ်ခု၊ အောင်မြင်မှုတစ်ခုအတွက် လျှောက်လှမ်းသူတိုင်းတွင် အမှားအယွင်း၊ အခက်အခဲနှင့် ကင်းရှင်းမရှိ။

ကိစ္စရပ်တိုင်းသည် အစီအစဉ် တစ်ခုတည်းနှင့် ပြီးမြောက်သည်ဟု မဆိုနိုင်။ အချို့က ပကတိအခြေအနေနှင့် လုပ်ရပ်အံချော်ခြင်းလည်း ရှိနိုင်၏။

အချို့လမ်းစဉ်များက မပြုလုပ်မီ အံဝင်ခွင်ကျရှိမည် ထင်ရသော်လည်း လက်တွေ့လုပ်ကြည့်မှ အံချော်နေသည်ကို တွေ့ရ၏။

ထို့ကြောင့် ပြောင်းလဲ လုပ်ကိုင်ရသည်လည်း ရှိသည်။

သူမသည် ဒီမိုကရေစီနိုင်ငံ ထူထောင်ရန် စီစဉ်စွမ်းဆောင်ခဲ့သူ ဖြစ်၏။ ပါတီထူထောင်ပြီး အကြမ်းမဖက်သည့်မူဝါဒ စွဲကိုင်ခဲ့သည်မှာ မှန်သည်။

တစ်ခုရှိသည်က အကြမ်းမဖက်သည့်မူဝါဒ ကိုင်စွဲထားသော်လည်း ထိပ်တိုက်ရင်ဆိုင်ခြင်း၊ အာဏာဖီဆန်ခြင်း စသည့်လုပ်ရပ်များကြောင့် ပဋိပက္ခ အသွင်သဏ္ဍာန် ဖြစ်ခဲ့၏။

ဒါကလည်း မဆန်းချေ။

အဘယ့်ကြောင့်ဆိုသော် သူမသည် တစ်ဦးတည်း လုပ်ရသူ မဟုတ်။ သူမနောက်တွင် အဖွဲ့ဝင်တွေ ရှိသည်။ ထိုအဖွဲ့ဝင်များထဲ၌ သူမနှယ် ဖြူစင်သူ၊ မှန်ကန်သူရှိသကဲ့သို့ ဟန်ဆောင်သူ၊ မရိုးဖြောင့်သူများလည်း ရှိသည်။

တစ်ဦးတစ်ယောက်၏ မရိုးဖြောင့်မှုသည် အဖွဲ့အစည်းတစ်ခုအား ထိခိုက်သည်မှာ ဓမ္မတာ။

ထို့အတူ တင်ပြမှု မမှန်ကန်လျှင် လုပ်ရပ်မှား ဖြစ်တတ်သည်။ ဒါကို သူမ သိချိမ့်မည်။

[၂]

သူမ နေအိမ်အကျယ်ချုပ်မှ လွတ်မြောက်တော့ ပြည်သူအများ အိမ်တွင်းမှ တထိတ်ထိတ် ဖြစ်နေကြသည်ကို သူမ သိချင်မှ သိမည်။ လမ်းမပေါ်ထွက်သည့် လူဦးရေထက် အိမ်တွင်းရှိနေသည့်လူဦးရေ အရေအတွက်သည် တူညီခြင်း

မရှိ။ အိမ်တွင်း၊ ရပ်ကွက်တွင်း ရင်တထိတ်ထိတ် ရှိနေသူက ပိုများပါသည်။

သူမ နေအိမ်အကျယ်ချုပ်မှ လွတ်တော့ သူ့အား ကြိုဆိုသူ ရာပေါင်းများစွာရှိသလို သူမ လွတ်လာတာနှင့် ယခင်ကလို ထိပ်တိုက်ရင်ဆိုင်ခြင်း၊ အာဏာဖီဆန်ခြင်းများ ပြုလေဦးမလားလို့ စိုးတထိတ်ထိတ် ရှိနေကြသည်။

'ပုဂ္ဂိုလ်မင်း၍ တရားဝင်' ဆိုသည့်စကားနှယ် ဗိုလ်ချုပ်အောင်ဆန်းအား ကြည်ညိုလေးစားသူများသည် ဗိုလ်ချုပ်သမီးဖြစ်သည့် သူမကိုလည်း လေးစားချစ်ခင်ကြ၏။

ထို့အတူ မျက်စိမှိတ် ကိုးကွယ်ကြသူ၊ အခွင့်အရေးမျှော်ကိုးပြီး ချဉ်းကပ် လက်ခုတ်တီးသူတွေလည်း ရှိသည်။

ထိုသူများက ကြောက်စရာကောင်းသူများပင်။ မျက်စိမှိတ် လူပုဂ္ဂိုလ်ကိုးကွယ်သူများ၊ အခွင့်အရေးအတွက် ချဉ်းကပ်လက်ခုတ်တီးသူများသည် သတိထားရမည့်သူများ ဖြစ်၏။

ထိုသူများက အမှားနှင့်အမှန်ကို ဝေဖန်ခြင်း မရှိ။ မိတ်ကောင်းဆွေမွန် မဟုတ်သဖြင့် လမ်းကောင်းအားလည်း ညွှန်မည် မဟုတ်။

မှားလည်းမှန်၊ မှန်လည်းမှန် လုပ်ကြသည်။ အစဉ်အမြဲ လက်ခုတ်သြဘာ ပေးနေကြသူများ ဖြစ်၏။

ပညာရှိများက–

"လက်ခုတ်သံဟာ အားပေးတာ မဟုတ်ဘူး၊

လက်ခုတ်သံဟာ မြှောက်ပင့်သွေးထိုးတာသာ
ဖြစ်တယ်''

ဟု ညွှန်ပြခဲ့သည်ကို မှတ်သားခဲ့ဖူးသည်။ လက်ခုတ်သံအား ယစ်မူးခဲ့သဖြင့် အမှားနွံနစ်ခဲ့သည့် လူပေါင်းများစွာ ရှိသည်ကို သမိုင်းကို လေ့လာလျှင် တွေ့ရှိမည်။

ထိုသူများက အငြိုအငြင် မခံနိုင်သူများသာ ဖြစ်၏။ ထိုသူတို့၏ နှလုံးသားတွင် သူမှားနေတာကို မှားနေပြီလို့ ပြောလိုက်ရင် 'ငါ့ကို ငြိုငြင်သွားနိုင်တယ်' ဟု ခံယူကာ မသိသလို နေတတ်ကြ၏။ ထိုသူများက ချစ်သူများ မဟုတ်။ နှစ်သူများသာ ဖြစ်၏။

[၃]

မြတ်ဗုဒ္ဓက ရင်သွေးရင်နှစ် 'ချစ်သား ရာဟုလာ' အား အမှာစကားနှစ်ခု ချွေမိန့်ခဲ့၏။

''ချစ်သားရာဟုလာ မှုသားစကားဆိုလျှင်
ရယ်ရွှင်ဖွယ်မျှပင် မပြောလေနှင့်''

(ဗုဒ္ဓ)

''ချစ်သားရာဟုလာ မိမိ၏ ချို့ယွင်းချက် အမှားအား ထောက်ပြသူအား ရွှေအိုးပေးသူဟု
မှတ်ယူလေ''

(ဗုဒ္ဓ)

မှန်သည်။ ဗုဒ္ဓက သူ၏ ချစ်သားရာဟုလာအား ဤသို့ ဆုံးမ ညွှန်ပြခဲ့သလို ဗိုလ်ချုပ်အောင်ဆန်းကလည်း မုသား ပြောသည်ကို မကြိုက်ကြောင်း၊ 'မုသားမပါ လင်္ကာမချော' ဆိုသည့်စကားအား လက်မခံကြောင်း ဆရာတက္ကသိုလ် နေဝင်း (ဗိုလ်ချုပ် အပါးတော်မြဲ၊ ဗိုလ်ထွန်းလှ) က ပြောပြခဲ့ဖူးသည်ကို မှတ်သားရဖူး၏။ ဗိုလ်ချုပ်က-

"လူတစ်ယောက်မှာ... ကိုယ်ကျင့်တရား ကောင်းဖို့နဲ့ မှန်ရာကို ရဲဝံ့စွာ ပြောရဲတဲ့သတ္တိ ရှိဖို့ အလိုအပ်ဆုံးပဲ"

ဟု ဆိုမိန့်ခဲ့၏။

သူမသည် ဗိုလ်ချုပ်အောင်ဆန်း၏ သမီးပီသစွာ အမှန် တရားအား မျက်နှာမူခဲ့သည်။ ပြည်သူအတွက် ပြုပြင်ပြောင်း လဲခြင်းကို ရင်ဝယ်ပိုက်ခဲ့ပြီဖြစ်ကြောင်း စကားတစ်ခုနှင့် သက် သေပြခဲ့ပြီ။ ထိုစကားက အခြားမဟုတ်။

"နောင်ဆို လူထုကြီးလမ်းပေါ် ထွက်စရာ မလို တော့မှါဘူး"

ဟူသည့်စကား ဖြစ်သတည်း။

☆ ☆ ☆



မဟာသီရိသုဓမ္မ ဒေါ်ခင်ကြည်
နှင့်
အောင်ဆန်းစုကြည် (ငယ်စဉ်က)

# လူထုခေါင်းဆောင်
# ဗိုလ်ချုပ်အောင်ဆန်း

[၁]

"လူထုခေါင်းဆောင်ဆိုတဲ့ဂုဏ်ကို ဝန်ကြီးဆိုတဲ့
ဂုဏ်ထက် ပိုမက်တယ်"

(ဗိုလ်ချုပ်အောင်ဆန်း)

ဗိုလ်ချုပ်သမိုင်းအား ပြန်ကြည့်လျှင် ဗိုလ်ချုပ်သည် နိုင်ငံရေးထွင်လုံးမလုပ်။ လူထုခေါင်းဆောင်အဖြစ် လူထုအကျိုးကိုသာ ရှေ့ရှု၏။

လူထုကြိုက်စကားလည်း ဆိုသူမဟုတ်။

နိုင်ငံရေးသမား၊ နိုင်ငံရေးခေါင်းဆောင်တော်တော်များများသည် လူပိန်းကြိုက်စကားကို သုံးကြသော်လည်း ဗိုလ်ချုပ်က မသုံးခဲ့။

ဗိုလ်ချုပ်က အမှန်ကိုပဲ ဘွင်းဘွင်းပြောသည်။

"ကျုပ်တို့အစိုးရအဖွဲ့ထဲ ဝင်ပြီးတာနဲ့ လူထု လိုချင်တာအကုန်လုံးကို ကျုပ် လုပ်ပေးနိုင်မယ် လို့ ကျုပ် ဘယ်တုန်းကမှ တစ်ပတ်မရိုက်ခဲ့ဘူး။ နေ့ချင်းညချင်း ပဒေသာပင်ပေါက်မပြနိုင်ဘူး"

ဟု ပြောခဲ့သလို သူ့အစိုးရအဖွဲ့နှင့်ပတ်သက်၍လည်း-

"ကျုပ်တို့အစိုးရအဖွဲ့ထဲ ဝင်လာပေမယ့် ဒီအစိုးရ အဖွဲ့၊ အမျိုးသားအစိုးရအဖွဲ့ရဲ့ အရည်အချင်း၊ အခွင့်အရေး အလုံးစုံနဲ့ ညီညွတ်ပြီ၊ ကိုက်ပြီလို့ မယူဆသေးဘူး"

ဟု ပွင့်လင်းစွာ ပြောခဲ့သည်။

ထို့အတူ နိုင်ငံတကာနှင့် မိမိနိုင်ငံ နှိုင်းယှဉ်ပြောခြင်းနှ ပတ်သက်၍ (ထိုစဉ်က အိန္ဒိယနှင့် နှိုင်းပြောသည်။)

"အိန္ဒိယနဲ့ မြန်မာပြည် အစရှိသည်အားဖြင့် နှိုင်းယှဉ်တဲ့အခါမယ် တူတဲ့အချက်တွေ၊ မတူ တဲ့အချက်တွေ အဲဒါတွေကိုလည်း ကြည့်ဖို့ လိုတယ်။ အိန္ဒိယပြည်က ကျုပ်တို့ထက် အဆ ပေါင်းများစွာ နယ်ကျယ်တယ်၊ လူများတယ်၊ ပစ္စည်းပေါတယ်၊ ကုလားလေတပ်၊ ရေတပ်၊ ကုန်းတပ် အစုံအလင် ရှိတယ်။ ရွေးကောက်ပွဲ လုပ်ပြီးပြီ၊ ဒါတွေလည်း ကြည့်ရမယ်"

ဟု ရှင်းပြသည်။ ဗိုလ်ချုပ်က အရာရာ တိကျစွာ သုံးသပ်သူ၊

[၂]

ဗိုလ်ချုပ်ဦးဆောင်သောအစိုးရ တာဝန်ယူစဉ်က ကွန်မြူနစ်တွေကြောင့် သပိတ်ကိစ္စတွေ ပေါ်ခဲ့သည်။ ကွန်မြူနစ်တွေက ပေါ်ပေါ်နေသည့်သပိတ်များက ဗမာပြည်ကြီး တော်လှန်ရေးလုပ်ရမလို လေသံလွှင့်ကြ၏။

ဗိုလ်ချုပ်က-

"ဘာညာနဲ့ အသံကောင်းဟစ်လို့ မရဘူး။ လုပ်မှရမှာ"

ဟု ပြောခဲ့သည်။

"သူတို့က ပရိဂျက်တွေဖျက်ဖို့ သပိတ်မှောက်ရတယ်လို့ ပြောတယ်။ ပရိဂျက်ပျက်မလား၊ အလုပ်သမားတွေပဲ နာမလား၊ တိုင်းပြည်ပဲ နာမလား၊ အဲဒါစောင့်ကြည့်ကြပေတော့။ ကျုပ်မြင်တာကတော့ ပရိဂျက်မပျက်တဲ့အပြင် အလုပ်သမားတွေ ပိုနာမယ်၊ တိုင်းပြည်လည်း ထိမယ်။"

"ပရိဂျက်တွေ ဘယ်မှာထိလို့လဲ၊ မသိ နားမလည်တဲ့ နောက်လိုက်တွေကို ဟိုဟာမြှောက်ပေး၊ ဒီဟာမြှောက်ပေးလုပ်မယ်။ ကိုယ်ကိုယ်တိုင်ကတော့ အနစ်နာခံကြမှာ မဟုတ်ဘူး။ အဲဒီလိုလုပ်နေရက်နဲ့ ကွန်မြူနစ်တွေ ခွတုတ်

နေတာခံမယ်ဆိုရင်လည်း ဒါဆိုင်ရာလူတွေရဲ့
သဘောပဲ''

ဟု ဗိုလ်ချုပ်က ပြောခဲ့သလို-

''ကျုပ်ကတော့ အလုပ်သမားနဲ့ တိုင်းပြည်နာ
မယ်ဆိုရင်တော့ ဒီတိုင်း ကြည့်မနေနိုင်ဘူး၊
အရေးယူရလိမ့်မယ်။ အဲဒါ ကျုပ် တိတိလင်း
လင်းပဲ ကျုပ် ပြောတယ်''

ဟု ပြတ်သားစွာ ပြောသည်။

မှန်သည်။

ဗိုလ်ချုပ်က မလိမ်တတ်သူ။ ဘွင်းဘွင်းသမား။ ပြော
စရာရှိလျှင် ထိန်ချန်သူမဟုတ်။ အရှိအတိုင်း ပြောသည်။

''ကွန်မြူနစ်တွေဟာ တိုင်းပြည်အပေါ် အလုပ်
လုပ်တဲ့လူအချင်းချင်းအပေါ် ညီညွတ်ရေး ပျက်
ပြားရာပျက်ပြားကြောင်း လုပ်တယ်။ လွတ်
လပ်ရေး ကြန့်ကြာရာကြန့်ကြာကြောင်း သစ္စာ
ဖောက်လုပ်တယ်။ သဘောတူဆုံးဖြတ်ခဲ့တဲ့
အချက်တွေ ဖောက်ဖျက်ပြီး အတွင်းဆွေးနွေး
တာတွေ အပြင်ထုတ်ပြော၊ မဟုတ်မမှန်တာ
တွေ လုပ်ပြော၊ အချင်းချင်း ပုဝ်မတ်၊ သူတို့
ခေါင်းဆောင်ဖြစ် ပြီးရောဆိုပြီး ပါတီကြီးစိုး
ရေးသာ ပထမလုပ်တယ်''

ဟု ပြည်သူအား တင်ပြပြီး ကွန်မြူနစ်ပါတီအား ထုတ်ပယ်လိုက်သည်။ သည်အခါ 'ထုတ်ပစ်တာ မစောလွန်းဘူးလား၊ ဦးစီးအဖွဲ့အစည်းအဝေးအထိ မစောင့်ဘူးလား' လို့ ပြောကြ၏။ ဗိုလ်ချုပ်က-

"ကျုပ် အရင်တုန်းက စောင့်ခဲ့တော့ ကျုပ်ပဲ ခံရတာပဲ။ သူတို့က အညစ်သန့်သူတွေ၊ အခုတော့ ကျုပ်တို့က ဦးအောင်ချတာပဲ၊ ဒီလိုမချရင် ဒီလူတွေ မဖြစ်ဘူး"

ဟု ပြောခဲ့၏။

ပြီးတော့ ဗိုလ်ချုပ်က-

"လူထုရဲ့ရှေ့မှာ ဘယ်အချိန်မဆို တကယ်အစစ်ခံဖို့ အသင့်ရှိတယ်၊ ကွန်မြူနစ်ခေါင်းဆောင်တွေရော၊ အပြင်က ခေါင်းဆောင်တွေရော အစစ်ခံဝံ့ရဲ့လား"

ဟု စိန်ခေါ်နိုင်လောက်အောင် ကိုယ်ကျင့်တရားအရာ၊ သစ္စာတရားအရာ၊ တိုင်းပြည်ချစ်ရာတွင် စံပြဖြစ်နေသူ ဖြစ်သည်။

*၁၉၄၆၊ အောက်တိုဘာ ၂၂ ရက်နေ့*

*အသံလွှင့်မိန့်ခွန်းအား ခံစားသည်။*

☆ ☆ ☆

# သူမ
## သို့မဟုတ်
## မှန်ရာကို ညွှန်ပြပြောဆိုတတ်သူ

[၁]

သူမက အမျိုးသားခေါင်းဆောင်ကြီး ဗိုလ်ချုပ်အောင်ဆန်း၏သမီးပီပီ မှန်ရာကို ရဲရဲဝံ့ဝံ့ ပြောရဲသူ၊ ပြောဝံ့သူဟု ဆိုရမည်။

ဝါရင့် နိုင်ငံရေးသမားတစ်ဦးက–

"အောင်ဆန်းစုကြည်ဟာ ဗိုလ်ချုပ်ကိုယ်တိုင် ချီးကျူးခဲ့တဲ့သမီးဖြစ်သလို ဗိုလ်ချုပ်စိတ်ထားတွေ သူ့မှာ ရှိတယ်။ သူ နေအိမ်အကျယ်ချုပ်က လွတ်တော့ သူ့ကို ကြိုဆိုတဲ့လူထုကြီးကို 'နောင်ဆို လူထုကြီးလမ်းပေါ် ထွက်စရာ မလိုတော့ပါဘူး' ဆိုတာက သူ့ရင်ထဲကစကားဆိုတာ ယုံတယ်။ သူဟာ တစ်ခါတစ်ရံ ဗိုလ်ချုပ်လို တဖွတ်ထိုးနိုင်ပေမယ့် ပြည်သူ

အကျိုး မဖြစ်ဘူးဆိုရင် ပြုပြင်ပြောင်းလဲဖို့
ဝန်မလေးသူလည်း ဖြစ်တယ်ကွ"

ဟု ရှင်းပြဖူးသည်။

မှန်သည်။

သူမက မှန်ရာကို ရဲဝံ့စွာ ပြောဝံ့သူလည်း ဖြစ်၏။ ပြောရဲသူလည်း ဖြစ်သည်။ သူမက အမြော်အမြင်ရှိပြီး ဖြူစင်သူဖြစ်သဖြင့် စိတ်ထဲရှိသည့် မှန်ရာကို မည်သူ ဝေဖန်မည်ကိုမျှ မကြောက်ဘဲ ပြောဝံ့သူ။

ရုပ်ရှင်သရုပ်ဆောင် 'ဇာဂနာ' လွတ်လာတော့ အောင်ဆန်းစုကြည်က 'သမ္မတကြီးကို ယုံပါလို့' ရဲဝံ့စွာ ပြောဆိုညွှန်ပြခဲ့သည်က သက်သေပင်။

[၂]

"ပြည်သူ့ဆန္ဒနဲ့ ပြည်သူ့အသံကို အလေးထား
တဲ့ အစိုးရကို ကြိုဆိုတယ်"

ဟု အစိုးရသစ်၏ နိုင်ငံတော်သမ္မတဦးသိန်းစိန်မှ မြစ်ဆုံစီမံကိန်း ရပ်ဆိုင်းကြောင်း လွှတ်တော်သို့ သဝဏ်လွှာပို့ပြီးတော့ သူမ ပွင့်လင်းစွာ ပြောခဲ့သည်။

သူမက သူမ၏ ပြုပြင်ပြောင်းလဲမှုများအား ပြည်သူမြင်လာအောင်လည်း ပြခဲ့၏။

သူမက–

"နောင်ဆို လူထုကြီးလမ်းမပေါ် ထွက်စရာ
မလိုတော့ပါဘူး"

ဟု သူမအား ကြိုဆိုလာသည့် လူထုကြီးအား ဤမည်သော ပြောင်းလဲမှုအသွင်သဏ္ဌာန်ဆောင်သည့်စကားနှင့် နှုတ်ခွန်းဆက်ခဲ့သလို-

"ကျွန်မ ပါတီအကျိုးထက် ပြည်သူ့အကျိုးကို
ပဲ ရှေ့ရှုမယ်"၊

ဟုလည်းကောင်း၊

"ကျွန်မတို့ရဲ့ အမျိုးသားဒီမိုကရေစီအဖွဲ့ချုပ် ဟာ
အာဏာယူမယ့်ပါတီ မဟုတ်ဘူး။ ပါတီ
အင်အား တိုးအောင်လုပ်ပြီး လက်ရှိအစိုးရကို
ခြိမ်းခြောက်မယ့်ပါတီ မဟုတ်ဘူး"

ဟုလည်းကောင်း၊

"အာဏာလိုချင်ရင် အဖွဲ့ချုပ်ကို မဝင်နဲ့၊ ပြည်
သူ့အကျိုးပြုမယ်ဆိုမှ အဖွဲ့ချုပ်ကိုဝင်"

ဟုလည်းကောင်း ပွင့်လင်းပြတ်သားစွာ ရဲရဲဝံ့ဝံ့ ကြေညာပြောဆိုခဲ့သလို-

"ဒီမိုကရေစီနိုင်ငံကြီးအဖြစ် ပီပြင်စွာ တည်
ဆောက်နိုင်ဖို့ ငြိမ်းချမ်းရေးဟာ လိုအပ်တယ်၊
ဒီမိုကရေစီရေး အောင်မြင်ဖို့ ငြိမ်းချမ်းရေး
ရအောင် လုပ်ရမယ်"

ဟု ပြောခဲ့၏။

သူမ၏ ကြိုးပမ်းမှု၊ အသွင်ပြောင်းလဲခြင်းတို့ကြောင့် နိုင်ငံအနာဂတ် ဒီမိုကရေစီလမ်းကြောင်း ဖြောင့်တန်းခြင်း အသွင်သဏ္ဌာန်များ ပီပြင်ခဲ့၏။

အစိုးရသစ်နှင့်သူမ သဟဇာတ ဖြစ်ခဲ့ပြီ။

သူမသည် သမ္မတကြီးနှင့် နိုင်ငံအနာဂတ်အရေးအတွက် တွေ့ဆုံခဲ့ပြီ။ ပြည်ထောင်စုဝန်ကြီး ဦးအောင်ကြည်နှင့် တွေ့ဆုံ ညှိနှိုင်းဆွေးနွေးသည့် အကြိမ်လည်း မနည်းတော့။

"အသွင်ပြောင်းမှုဟာ ညင်သာရမယ်။ ပြည်
သူကိုလည်း မထိခိုက်စေရဘူး"

ဟု ဆိုခဲ့သည်။

[၃]

သူမသည် နိုင်ငံအကျိုး၊ ပြည်သူအကျိုးအတွက် ပြုပြင် ပြောင်းလဲခဲ့သလို အနာဂတ်နိုင်ငံတော်အတွက် ခက်ခဲသည့် အလုပ်တစ်ခုကို လုပ်ခဲ့ပြီ။

ထိုအလုပ်က အခြားမဟုတ်။

'အမျိုးသား ပြန်လည်သင့်မြတ်ရင်ကြားစေ့ရေးပင်'။

သူမက-

"ဒီအလုပ်က ခက်ခဲတဲ့အလုပ်ပဲ။ အမြင်မတူသူ
နှစ်ဦးရဲ့ မတူညီမှုကို ညှိယူရတာလေ။ ချုပ်

ချော်တိမ်းပါးနိုင်လို့ သတိပြုရတယ်။ ပြည်သူ
တွေက ဝိုင်းဝန်းကူညီပါ''

ဟု ပွင့်လင်းစွာ ဆိုခဲ့၏။

မှန်သည်။

သူမက နိုင်ငံတော် အနာဂတ်အတွက် အမျိုးသား ပြန်လည် သင့်မြတ်ရင်ကြားစေ့ရေးတာဝန်အား ထမ်းဆောင်နေသလို သူမကိုချစ်သော ပြည်သူကလည်း သူမ ချွတ်ချော်တိမ်းပါးမှုမရှိအောင် ပံ့ပိုးကူညီရမည်။

စည်းလုံးညီညွတ်ခြင်း၊ ပေါင်းစု စွမ်းဆောင်ခြင်းဖြင့် အနာဂတ်ဒီမိုကရေစီနိုင်ငံအဖြစ် ထူထောင်နိုင်ရန် လက်တွဲ ပံ့ပိုးရမည်ဖြစ်သတည်း။

☆ ☆ ☆

# ဗိုလ်ချုပ်
# သို့မဟုတ်
# အမြော်အမြင်ကြီးမားစကားဆိုသူ

[၁]

"ဖဆပလ အမတ်တွေပဲဖြစ်ဖြစ်၊ ဖဆပလ
အဖွဲ့တွေပဲဖြစ်ဖြစ် သွေးနားထင် မရောက်ဘဲ
ငါတို့ တော်လို့ရတာ မဟုတ်ဘူး၊ တိုင်းပြည်က
အားပေးလို့ ရတာဆိုတာ သိထားဖို့လိုတယ်"

(ကျမ်းကျိန်ညီလာခံ)

ဒါက လွန်ခဲ့သည့်နှစ်ပေါင်း(၆၀) ကျော် တိုင်းပြုပြည်ပြု လွတ်တော် ကျင်းပတော့ ဗိုလ်ချုပ်အောင်ဆန်း ပြောသည့်စကား ပင်။

ဗိုလ်ချုပ်က ပြည်သူကို အလေးထားသည်။ စိတ်ကြီးဝင် သည်ကိုလည်းကောင်း၊ ငါတော် ငါတတ်ဆိုပြီး ဟိတ်ဟန်လုပ် သည်ကိုလည်းကောင်း နှစ်သက်ခြင်း မရှိ။

ဗိုလ်ချုပ်က ပြည်သူ့ဘ၀ ရှေ့ရှုပြီး ပြည်သူ့အကျိုးပြု
လုပ်ငန်းကို အဓိကထားသည်။ ထို့ကြောင့် ဗိုလ်ချုပ်ကို ကြည်ညို
လေးစားကြသည်။ သို့သော် သွေးနားထင်ရောက်ခြင်း နတ္ထိ။

ထို့အတူ ဗိုလ်ချုပ်က အမြဲတမ်း ညီညွတ်မှုကို ရှေ့တန်း
တင်ထားသည်။ ဥမကွဲ သိုက်မပျက်ဘ၀များကို နှစ်လိုသည်။

အချင်းချင်း စိတ်ဝမ်းကွဲတာ၊ အပြစ်ဖို့တာ၊ ရန်ရှာတာကို
မကြိုက်။

ဗိုလ်ချုပ် စည်းရုံးရေးဆင်းရင်း မြေပုံမြို့ကိုရောက်တော့
လွတ်လပ်ရေးအတွက် တိုက်ပွဲဝင်နေသည်ဟု ပြောပြီး လူသတ်
ရထားမိုင်းထောင်လုပ်၊ ပါတီခေါင်းဆောင်တွေကို သတ်နေသည့်
အဖြစ်များနှင့်ပတ်သက်၍-

"လွတ်လပ်ရေးကို ညီညွတ်စွာ ပေါင်းပြီးတိုက်
မယ့်အစား အချင်းချင်း တိုက်နေကြတာ ခက်
တယ်။ ပြည်သူ့ရဲဘော်တပ်ဖွဲ့ ခေါင်းဆောင်ကို
သတ်၊ ဖဆပလအဖွဲ့ခေါင်းဆောင်ကို သတ်၊
မီးရထားကို မှောက်အောင်လုပ်၊ ဒီလိုလုပ်နေ
တာဟာ လွတ်လပ်ရေးတိုက်ပွဲ ထင်နေတယ်။
လုပ်ပုံမဟုတ်သေးဘူး။ သေတော့ ဘယ်သူ
တွေ သေသလဲ။ မြန်မာတွေ သေတာပဲမဟုတ်
လား။ နယ်ချဲ့သမားတွေကတော့ လက်ပိုက်
ကြည့်ပြီး ရယ်နေတာပဲ"

ဗိုလ်ချုပ် ပြောသည်မှာ မှန်သည်။

ဤလုပ်ရပ်က စည်းလုံးညီညွတ်မှု ပြိုကွဲခြင်းနိမိတ် လက္ခဏာများသာ ဖြစ်သည်။

မြန်မာစကားတွင် 'မျက်ဖြူဆိုက်လေ ဆရာကြိုက်လေ' ဆိုသည့်စကားနှယ်ပင် နယ်ချဲ့တို့ကတော့ မြန်မာတွေ မညီညွတ်လေ၊ စိတ်ဝမ်းကွဲလေ ကြိုက်လေပင်တည်း။

[၂]

၈၈ အရေးအခင်းနောက်ပိုင်း တပ်မတော်ကို ပုတ်ခတ်သံတွေ ဆူညံခဲ့သည်။ ပြည်ပသတင်းဌာနတွေကလည်း ထွင်လုံးဖန်လုံးတွေနှင့် ထင်ယောင်ထင်မှားဖြစ်စရာများ ပြဆိုကြသည်။

ထားတော့။ ယခု စစ်အစိုးရချုပ်ငြိမ်းသွားပြီ။ အရပ်သားအစိုးရတက်လာတော့ ပြည်သူတွေရဲ့ဆန္ဒအတိုင်း ခေတ်မီတိုးတက်သည့် ဒီမိုကရေစီနိုင်ငံ ထူထောင်ဖို့ ကြိုးစားနေသည်။

ပြောရလျှင် ခေတ်မီတိုးတက်သည့် ဒီမိုကရေစီနိုင်ငံအဖြစ် လျှောက်လှမ်းနိုင်ရန် တပ်မတော်အစိုးရက လမ်းခင်းပေးခဲ့သည်။ ဒါ သမိုင်းမှန်ဖြစ်သော်လည်း ဘာ့ကြောင့် လက်မခံသယောင်နေကြသလဲ။

သမာသမတ်ကျသည့် ဝါရင့်နိုင်ငံရေးသမားကြီးတစ်ဦးက ပြောဖူးသည်။

"ငါတို့နိုင်ငံမှာ လမ်းပြသူတွေကလည်း မှားနေ

သလို၊ လူအတော်များများကလည်း မှားနေ
တယ်ကွ၊ ၈၈ မှာ ဒီမိုကရေစီ ပေးပါလို့
တောင်းနေကြတယ်။ ဒီမိုကရေစီဆိုတာ
တောင်းလို့မရသလို ဘယ်သူကမှလည်း ရော့
ယူလို့ ပေးလို့မရဘူး။ ကိုယ်တိုင် ကျင့်ယူရ
မှာ။ ဒို့ လိုချင်တဲ့ ဒီမိုကရေစီက ဘာလဲ၊
ဘယ်လိုဒီမိုကရေစီလဲ၊ ဒါကို ရှင်းရှင်း ခေါင်း
ဆောင်တွေက ပြောပြသင့်တယ်''

ဟု ရှင်းပြခဲ့သလို သူက-

''ဒီမိုကရေစီဆိုတာ ကျင့်စဉ်တစ်ခုကွ၊ ဒီကျင့်စဉ်
ဟာ စနစ်တစ်ခုအောက်မှာ အမြဲရှိတယ်။ ကွန်
မြူနစ်စနစ်၊ ဆိုရှယ်လစ်စနစ်၊ အရင်းရှင်စနစ်
ရယ်လို့ရှိသလို ဒီစနစ်တွေအောက်မှာ ဒီမိုကရေ
စီကျင့်စဉ်တွေရှိတယ်။ ဒီကနေ ဒီမိုကရေစီ
နိုင်ငံလို့ ကြွေးကြော်နေတဲ့ အမေရိကန်နိုင်ငံ
ဒီနိုင်ငံမှာ ကျင့်သုံးတဲ့ဒီမိုကရေစီက အရင်းရှင်
ဒီမိုကရေစီကွ၊ ဗိုလ်ချုပ်ကလည်း လွတ်လပ်
ရေးရပြီးရင် ဆိုရှယ်လစ်စနစ်နဲ့ ဆိုရှယ်လစ်
ဒီမိုကရေစီနိုင်ငံ ထူထောင်ဖို့ ရည်ရွယ်ချက်
ရှိတာကွ''

ဟု ရှင်းပြသည်။

"ဒီမိုကရေစီလိုချင်ရင် ဒီမိုကရေစီနဲ့ လျော်ညီတဲ့ ဒီမိုကရေစီရနိုင်တဲ့ ညီညွှတ်မှုစည်းကမ်းရှိရမယ်။ ဒီမိုကရေစီရနိုင်တဲ့ ညီညွှတ်မှုကိုလည်း ထိန်းသိမ်းရမယ်။ ဒီမိုကရေစီလိုချင်ရင် ဒီမိုကရေစီရနိုင်တဲ့ ထူထောင်မှုကို လုပ်ရဦးမယ်"

ဟု စိတ်ရှည်လက်ရှည် ပြောပြသည်။

ရှေးသူဟောင်းတို့ဆိုစကားက အနှစ်သာရ ပြည့်ဝသလို မှတ်သားဖွယ်လည်း ဖြစ်သည်ပင်။

[၃]

ထိုအကြောင်း၊ သည်အကြောင်း စဉ်းစားရင်း ၈၈ ကာလက ကျွန်တော့်တပည့်တစ်ဦး ပြောသည့်စကား ပြေးသတိရသည်။ သူက တစ်စုံတစ်ဦးအား မကျေနပ်သဖြင့်-

"သိမယ် ဆရာ၊ ဒီမိုကရေစီရမှ ဒီကောင်ကို ဓားနဲ့ကို တက်ခုတ်ဦးမယ်"

ဟူသောစကား။

ဘုရား...ဘုရားဟု ကျွန်တော် ဘုရားတမိသည်။ လူအတော်များများက ဒီမိုကရေစီရလျှင် လွတ်လပ်ပြီ၊ လုပ်ချင်တာလုပ်ရပြီဟု ထင်သည်။ ဒါက လွတ်လပ်ခြင်းမဟုတ်။ ရမ်းကားမှုဖြစ်သည်ကို သူတို့ မသိကြ။

ထိုအကြောင်း၊ သည်အကြောင်း၊ ဒီမိုကရေစီအကြောင်း စဉ်းစားရင်း ၁၉၄၇ ခုနှစ်၊ ဇွန်လ (၁၆) ရက်နေ့က ဗိုလ်ချုပ် မြွက်ကြားသည့်စကားတစ်ခုအား အမှတ်ရမိသည်။

"ခင်ဗျားတို့ဟာ လွတ်လပ်ရေးကို လိုချင်ရင် လွတ်လပ်ရေး ရနိုင်လောက်တဲ့ စည်းကမ်းရှိကြပါ၊ လွတ်လပ်ရေးကို လိုချင်လို့ရှိရင် လွတ်လပ်ရေးရနိုင်တဲ့ ညီညွတ်မှုကို ထိမ်းသိမ်းပါ။ လွတ်လပ်ရေးကို လိုချင်ရင် လွတ်လပ်ရေး ရနိုင်တဲ့ ထူထောင်မှုကို လုပ်ကြပါ။ အဲဒီလို လုပ်ပြီးတဲ့နောက် ရှေ့ကို လွတ်လပ်ရေး အရသာကို ခံစား စံစားချင်တယ်ဆိုရင် အလုပ်လုပ်ကြဖို့၊ အကျင့်ဟောင်းတွေ၊ စောက်ကျင့်တွေကို ပြင်ကြဖို့ လိုပြီဆိုတာ ကျွန်တော်ကနေ ပြောခဲ့ချင်တယ်"

ဒီကနေ့ထိ ဗိုလ်ချုပ် သက်ရှိထင်ရှားရှိလျှင်လည်း ဤသို့ပင် ပြောလိမ့်ဦးမည်။ မှန်တော့မှန်သည်။ ပန်းတိုင်တစ်ခုသို့ ရောက်ရှိရန် လိုအပ်သည်ကို ဖြည့်ဆည်းလုပ်ဖို့လိုသည်။

တောင်းဆိုနေဖို့၊ အပြစ်တွေပြောနေဖို့၊ အမှားဟောင်းတွေအား ဖော်ထုတ်ပုံကြီးချဲ့ဖို့ မကြိုးစားသင့်တော့ပြီ။

အထက်ပါ ဗိုလ်ချုပ်ပြောသည့်စကားက လွတ်လပ်ရေးရဖို့အတွက် လိုအပ်ချက်တွေ ဖြစ်သည့်ကိစ္စတွေကို ပြည့်စုံအောင်

ဖြည့်ဆည်းရဦးမယ်။

- အရင်က လွတ်လပ်ရေးရဖို့အတွက် စည်းကမ်းရှိရမည်။ စည်းကမ်းရှိဖို့လိုသည်။
- ယခု ဒီမိုကရေစီရဖို့အတွက် စည်းကမ်းရှိရမည်။ စည်းကမ်းရှိဖို့လိုသည်။
- အအရင်က လွတ်လပ်ရေးရဖို့အတွက် လွတ်လပ်ရေးရနိုင်သည့် ညီညွတ်မှုထိမ်းသိမ်းဖို့လိုသည်။
- ယခု ဒီမိုကရေစီရဖို့အတွက် ဒီမိုကရေစီရနိုင်သည့် ညီညွတ်မှုထိမ်းသိမ်းဖို့ လိုသည်။ ထိမ်းသိမ်းရမည်။
- အရင်က လွတ်လပ်ရေးရဖို့ ထူထောင်မှု လိုသည်။
- ယခု ဒီမိုကရေစီရဖို့ ထူထောင်မှုလိုသည်။

ထို့နောက် အရင်က လွတ်လပ်ရေးအရသာ ခံစားနိုင်ဖို့ အလုပ်လုပ်ကြဖို့၊ အကျင့်ပောင်းတွေပြင်ဖို့ လိုသလို ယနေ့ ဒီမိုကရေစီ၏အရသာအား ခံစားဖို့ တက်ညီလက်ညီ အလုပ်လုပ်ကြဖို့၊ အကျင့်ပောင်းတွေပြင်ဖို့ လိုပြီဟု ဆိုရမည်ဖြစ်သတည်း။

☆ ☆ ☆



အမေရိကန် နိုင်ငံခြားရေးဝန်ကြီး
ဟီလာရီကလင်တန်
နှင့်
အောင်ဆန်းစုကြည်

## သူမ
## သို့မဟုတ်
## ပကတိစိတ်ထားနှင့်
## တပ်မတော်အပေါ် အမြင်ကြည်သူ

[၁]

"အောင်ဆန်းစုကြည်ဟာ တပ်မတော်အစိုးရ
အပေါ် မုန်းတီး ဥပေက္ခာပြုသူ မဟုတ်ဘူး
ဆိုရင် စာရေးဆရာ ယုံမလား"

ဟု ကျွန်တော့်မိတ်ဆွေ ဦးသန်းထွတ်က ပြောဖူး၏။ ကျွန်တော်က-

"ဟုတ်တယ်လေ၊ တပ်မတော်အစိုးရနဲ့ သူ
ထိပ်တိုက်ရင်ဆိုင်မှုတွေဖြစ်နေတာ မှုကြောင့်
လို့ နားလည်ပြီးသားပါ"

ဟု ဖြေခဲ့သည်။

ဦးသန်းထွတ်က ပြုံးပြီး-

"ခင်ဗျား တစ်ချိန်မှာ စာရေးရင် ရေးနိုင်ဖို့ ပကတိ အဖြစ်မှန်အကြောင်းကလေး တစ်ခု ပြောပြချင်တယ်"

ဟု ပြော၏။

"အင်း…ပြောစမ်းပါ"

"ပြောရရင် အံ့ဩစရာလည်းဖြစ်သလို ကျေနပ်စရာလည်းဖြစ်တယ်ဗျ။ ပြောတဲ့သူက သူ့အိမ်က စားဖိုမှူးလေ သူ့ကိုယ်တွေ့ဆိုလို့သာ ယုံရတာ မယုံစရာကောင်းတာတော့ အမှန် ပဲ"

"အင်း…ပြောပါ"

သူက သက်ပြင်းချပြီး ပြုံးသည်။ ပြီးမှ-

"ပြောရရင် ဗိုလ်ချုပ်ကတော် ဒေါ်ခင်ကြည်နဲ့ ပတ်သက်တဲ့ လီလီပန်းဇာတ်လမ်းမျိုးဗျ"

ဟု ပြောသည်။

ထို့နောက် သူက-

"အဖြစ်အပျက်က နာဂစ်ဖြစ်ပြီးနောက်ပိုင်း သူ့အိမ်တွင်းမှာ ဖြစ်ခဲ့တဲ့ လူသားဆန်တဲ့အဖြစ်ပဲ။ နာဂစ်မှာ မြန်မာနိုင်ငံအနှံ့ ပျက်စီးယိုယွင်းမှုတွေ ရှိခဲ့သလို ဒေါ်စုအိမ်တွင်းမှာလည်း အကျိုးအပဲ့ အပျက်အစီးတွေ ရှိခဲ့တယ်။ အဲဒီ

ကျိုးပဲ့ပျက်စီးမှုတွေကို တပ်မတော်သားတွေက ဦးစီးပြီး ဖယ်ရှား ရှင်းလင်းပေးခဲ့ရသလို ဒေါ်စု အိမ်တွင်းက အကျိုးအပဲ့ အပျက်အစီးတွေကို လည်း တာဝန်ကျ တပ်မတော်သားတွေကပဲ ဖယ်ရှား ရှင်းလင်းပေးရတယ်။ အဖြစ်က အဲဒီ နေ့က ဖြစ်ခဲ့တဲ့အဖြစ်လေ''

ကျွန်တော် သူ့ကိုကြည့်လိုက်ပြီး-

''ခင်ဗျားဇာတ်လမ်းက ဇာတ်ရှိန်မြင့်လာပြီပဲ'' ဟု ပြောလိုက်၏။

''ဟုတ်တယ်၊ ဒီအပိုင်းက ဇာတ်ရှိန်အမြင့်ဆုံး ပဲ။ ပြောရရင် ဒါဟာ ပကတိ အရှုပ်တွေကို ဖော်ပြတာပဲ''

''အင်း...ပြောပါဦး''

''ပြောရရင် အဲဒီနေ့က ခြံထဲက သစ်ကိုင်း သစ်ပင် အကျိုးအပဲ့တွေကို တပ်မတော်သား ရဲဘော်တွေက ရှင်းပေးတယ်။ ဒီလို ရှင်းပေး တဲ့ ရဲဘော်တွေကို ဒန်ပေါက် ကျွေးတယ်။ ကျွေးသူက ဘယ်သူထင်လဲ''

''ဘယ်သိမလဲ''

''ရဲဘော်လေးတွေကို ဒန်ပေါက် ဝယ်ကျွေးသူ က ဒေါ်စုဗျ။ ဒီနေအိမ်တွင် ရှင်းပေးတဲ့

ရဲဘော်တွေကို သူကိုယ်တိုင် ကျွေးမယ်လို့ ပြောတယ်။ သူကိုယ်တိုင် စုဆောင်းထားတဲ့ ငါးရာတန်အဟောင်းကလေးတွေနဲ့ ဝယ်ကျွေး တာလို့ သူ့စားဖိုမှူးက ပြောပြတာဗျ”

ကျွန်တော်လည်း သူမအကြောင်းအား နားထောင်ရင်း ပြုံးမိသည်။ ကျေနပ်လည်း ကျေနပ်မိသည်။

စင်စစ်မူ ဘာပဲပြောပြော သူမသည် တပ်မတော်ဖခင် ဗိုလ်ချုပ်အောင်ဆန်း၏သမီးဖြစ်သလို သူမတွင် တပ်မတော် အား ချစ်ခင်စိတ်ရှိသည်။ ဒါက သက်သေဟု ဆိုရမည်။

[၂]

သူမနှင့်တပ်မတော် ခပ်စိမ်းစိမ်း ဖြစ်နေခဲ့သည်မှာ အကြောင်းရှိနိုင်သည်။ ဘာ့ကြောင့်လဲ။

ဒါကို သူမသာ သိမည်။

ယခုမူ သူမသည် သူမ၏ရင်ထဲမှဆန္ဒအား ၂၃-၁-၂၀၁၂ ခုနှစ်ထုတ် ဒီလှိုင်းစာစောင်၌ ပွင့်လင်းစွာ ဖွင့်ဟ ပြောခဲ့ပြီ။

မြန်မာနိုင်ငံတွင် ဒီမိုကရေစီ ပြုပြင်ပြောင်းလဲမှုလုပ်ငန်း များကို မြန်မာစစ်တပ်က ပိတ်ဆို့ပစ်နိုင်တယ်ဟူသော ခေါင်းစဉ် ဖြင့် ဇန်နဝါရီလ (၅) ရက်၌ အေပီသတင်းဌာနမှ ဖော်ပြခဲ့ သည့်သတင်းနှင့်ပတ်သက်၍ ဒီလှိုင်းစာစောင်မှ မေးမြန်း ချက်အား သူမ ဖြေကြားချက်အပြည့်အစုံမှာ ဤသို့ ဖြစ်သည်။

ဒီလှိုင်း။ ။ ဉက္ကဋ္ဌခင်ဗျား…ဇန်နဝါရီ ၅ ရက်နေ့ထုတ် အေပီ သတင်းမှာ မြန်မာနိုင်ငံမှာ ဒီမိုကရေစီ ပြုပြင်ပြောင်းလဲမှုတွေဟာ ရပ်ဆိုင်းလို့မရတဲ့ အဆင့်အထိတော့ မရောက်သေးပါဘူး။ တပ်မတော်က လက်ခံမှသာ ဒီအပြောင်းအလဲတွေ အောင်မြင်မှာပါလို့ ဉက္ကဋ္ဌက ပြောခဲ့ပါတယ်။ ဒီအချက်နဲ့ပတ်သက်လို့ ထပ်မံ ရှင်းလင်းပြောကြားဖို့ ရှိပါသလားခင်ဗျာ။

ဉက္ကဋ္ဌ။ ။ ဒါက ကျွန်မပြောတာ ရှင်းနေပြီလို့ ထင်ပါတယ်။ မြန်မာနိုင်ငံမှာ ဖြစ်ပေါ်နေတဲ့ ပြုပြင်ပြောင်းလဲမှုတွေဟာ ပြန်လှည့်လို့မရတော့တဲ့ အဆင့်တော့ မဟုတ်သေးပါဘူး။ တကယ်လို့ ပြုပြင်ပြောင်းလဲမှုတွေဟာ ပြည်လှည့်လို့မရတော့တဲ့အထိ စိတ်ချရဖို့ဆိုရင် တပ်မတော်က ပူးပေါင်းပါဝင်ဖို့ လိုလိမ့်မယ်။

ဒီလှိုင်း။ ။ အခုအနေအထားမှာ အန္တရာယ်များတယ်လို့ မပြောနိုင်ပါဘူး။ ဒါပေမယ့် ရပ်ဆိုင်းလို့မရတဲ့ အဆင့်ရောက်ပြီလို့လည်း မပြောနိုင်ပါဘူး။ အတားအဆီးတွေနဲ့ အန္တရာယ်တချို့တော့ ရှိနေပါသေးတယ်လို့လည်း ဉက္ကဋ္ဌက ပြောတယ်လို့ သတင်းမှာ ဖော်ပြထားပါတယ်။ အသေးစိတ်

ရှင်းလင်းပြောကြားပေးပါဦးခင်ဗျာ။

ဉက္ကဋ္ဌ။ ။ ဒါလည်း ရှင်းပါတယ်။ အန္တရာယ် အများအပြား ရှိနေတယ်လို့တော့ မဆိုချင်ပါဘူး။ ဒါပေမယ့် နောက်ပြန်လှည့်လို့မရတော့တဲ့ အဆင့်အထိ ရောက်နေပြီလို့လည်း ကျွန်မတို့ မပြောနိုင်ပါဘူး။ အဲဒီလောက်ထိ မတိုးတက်သေးဘူး၊ အန္တရာယ်လည်း အနည်းအကျဉ်းတော့ ရှိနေမှာပေါ့။ ဒါတွေလည်း ကျွန်မတို့ အောင်မြင်အောင် ကျော်လွှားရမှာပေါ့။

ဒီလိုင်း။ ။ ခြုံငုံပြီးတော့ပဲ မေးပါရစေ။ ယခု ပြုပြင်ပြောင်းလဲမှုတွေဟာ ဘယ်အခြေအနေ ရောက်နေပြီလဲလို့ တွေးတောပြောဆိုမှုတွေ ရှိနေပါတယ်။ အဲဒီတော့ အခုလို တိုးတက်မှုအလားအလာတွေ မှုန်ဝါးဝါး ဖြစ်နေချိန်မှာ စစ်တပ်က အာဏာသိမ်းမယ့်အန္တရာယ်ဟာ ရှိနေသေးတယ်၊ သို့မဟုတ် စိုးရိမ်နေရသေးတယ်လို့၊ ဉက္ကဋ္ဌက ပြောချင်တာလား။

ဉက္ကဋ္ဌ။ ။ ကျွန်မက အဲဒီလို ပြောလိုတာ မဟုတ်ပါဘူး။ ဒါပေမယ့် တပ်မတော် မပါဘဲနဲ့တော့ ကျွန်မတို့ အောင်မြင်ပြီလို့ ပြောလို့ မရသေးပါဘူး။ ကျွန်မ အနေနဲ့ တပ်မတော်ရဲ့ ပါဝင်ပတ်သက်မှုရှိမှ ဒီမို

ကရေစီရေးရာ အောင်မြင်နိုင်မယ်လို့ ပြောတာ
ဟာ လိုအပ်ချက်အရရော၊ လိုလားချက်အရပါ
ပြောတာပါ။ လိုအပ်ချက်ဆိုတာက မြန်မာနိုင်ငံ
ဒီမိုကရေစီ ပြုပြင်ပြောင်းလဲရေးမှာ တပ်မတော်
က ပါဝင်ပူးပေါင်းဖို့ လိုအပ်တယ်။ ကျွန်မအနေ
နဲ့လည်း စစ်တပ်က ပူးပေါင်း ပါဝင်လာတာကို
လိုလားပါတယ်"

ဒီလှိုင်း။ ။ ကျေးဇူးတင်ပါတယ်ခင်ဗျာ။

**စာကိုး၊** တွဲ (၁)၊ အမှတ်(၁)၊ တနင်္လာနေ့
၂၃၊ ဇန်နဝါရီလ၊ ၂၀၁၂
ဒီလှိုင်းစာစောင်

☆ ☆ ☆

## ဗိုလ်ချုပ်အောင်ဆန်း
## သို့မဟုတ်
## အကောင်းဆုံးကို မျှော်လင့်သူ
## အဆိုးဆုံးကို ရင်ဆိုင်ရဲသူ

[၁]

ဗိုလ်ချုပ် ဗြိတိသျှ နန်းရင်းဝန် မစ္စတာ အက်တလီနှင့် တွေ့ဆုံဆွေးနွေးရန် အင်္ဂလန်သို့အသွား သတင်းထောက်တွေနှင့် တွေ့သည်။

"ဗြိတိသျှနန်းရင်းဝန်နဲ့ တွေ့ဆုံမယ့်ကိစ္စမှာ
ဗိုလ်ချုပ်အနေနဲ့ အောင်မြင်မှုနဲ့ပတ်သက်လို့
ဘယ်လို ထင်မြင်ယူဆပါသလဲ"

ဟု မေးကြသည်။

ဗိုလ်ချုပ်က ထုံးစံအတိုင်း တည်ငြိမ်အေးဆေးလှသည်။ ဗိုလ်ချုပ်က ပန်းတိုင်မဲ့ခရီးနှင်သူ မဟုတ်သကဲ့သို့ လောကဓံကို လည်း နားလည်သူ ဖြစ်သည်။

လောကတံထွာ ဓမ္မတာအရ ဘာကိုမျှ သေချာစွာ ပြော၍မရ။ အဖြစ်ရှိသလို အပျက်ရှိသည်။ အကောင်းရှိသလို၊ အဆိုးရှိသည်။

အထူးသဖြင့် ပန်းတိုင်တစ်ခုသို့ ခရီးနှင်ရာတွင် ပို၍သတိထားရသည်။ စိတ်ဓာတ်ပျော့ညံ့လို့မရ။ ဖွဲလျှော့လို့မရ။ ပန်းခင်းလမ်းဟုချည်း ထင်မြင်ယူဆထား၍မရ။ ပန်းခင်းလမ်းမဟုတ်ဘဲ ခရောင်းလမ်းလည်း ဖြစ်နိုင်သည်။

ဒါကို ဗိုလ်ချုပ်က နားလည်သည်။

ထို့ကြောင့်လည်း ဗိုလ်ချုပ်က-

"ကျွန်တော်ကတော့ အကောင်းဆုံးဖြစ်လိမ့်မယ်လို့ မျှော်လင့်ပါတယ်။ ဒါပေမယ့် အဆိုးဆုံးဖြစ်လာခဲ့ရင်လည်း ကျွန်တော် ရင်ဆိုင်ဖြေရှင်းဖို့ အသင့်ပါ"

ဟု တည်ငြိမ်စွာ ဖြေခဲ့သည်။

[၂]

ဗိုလ်ချုပ်အောင်ဆန်းသည် အရာရာအား သေချာကျနစွာစီစဉ်ဆောင်ရွက်ခဲ့သည်။ ဘယ်တော့မှ အလုပ်တစ်ခုကို လွယ်လွယ်မလုပ်။ အမြဲတမ်း ရှေ့ရေးနောက်ရေး စဉ်းစားမျှော်တွေးအလုပ်လုပ်သူပင်။

ဗိုလ်ချုပ်သည် ဗြိတိသျှ နန်းရင်းဝန် အက်တလီနှင့်

လွတ်လပ်ရေးအတွက် ဆွေးနွေးရန် အင်္ဂလန်ပြည်သို့သွားကာနီး တောင်တန်းဒေသ ရှမ်းပြည်သို့ သွားခဲ့သည်။ လူမျိုးစုခေါင်းဆောင်များနှင့် တွေ့ခဲ့သည်။

ဗိုလ်ချုပ်က ၁၉၄၇ ခုနှစ်၊ ဇန်နဝါရီ ၂ ရက်နေ့က အင်္ဂလန်သို့ ထွက်ခွာသွားစဉ် နယူးဒေလီတွင် ခေတ္တနားခိုက် နယူးဒေလီ ရေဒီယိုမှ-

> "အိန္ဒိယမှာ မဟာရာဇာစော်ဘွားများအပေါ် အင်္ဂလိပ်က စီမံထားပုံ၊ အချင်းချင်းအပေါ် သွေးခွဲထားပုံများကို ကြည့်ရတာဟာ အတော် စိတ်ပျက်စရာကောင်းတယ်။ ဗမာပြည်မှာ လည်း ဒီလိုပဲလုပ်မှာပဲ။ သွားသာသွားရတယ်၊ စိတ်ခပ်လေးလေးပဲ။ အချင်းချင်းတွေ ညီညွတ် စည်းရုံးတဲ့ အင်အား ကြီးမားသည်ထက် ကြီး မားဖို့ အရေးကြီးဆုံး ဖြစ်တယ်"

ဟု ဗိုလ်ချုပ်က အခွင့်ရလျှင် ချက်ချင်း အသံလွှင့်သတိပေးခဲ့ သည်။

ထို့အတူ မိမိ ဘိလပ်သို့ရောက်နေစဉ် စည်းရုံးမှုအင်အား ပြရန် သခင်နု စသည့် ဖဆပလ အဖွဲ့ခေါင်းဆောင်များအား စီစဉ်သတိပေးခဲ့သဖြင့် 'လွတ်လပ်ရေးမရလျှင် ပြည်သူ့အားနှင့် ဆော်မည်' ဟူသည့်သဘော သက်ဝင်သည့် လူထုဆန္ဒပြပွဲအား လုပ်နိုင်ခဲ့သည်။

ဗိုလ်ချုပ်က ရှေ့ရေးမျှော်တွေးပြီး စီစဉ်သင့်သည်ကို စီစဉ်သည်မှာ ဗိုလ်ချုပ်၏ အတုယူဖွယ်စရိုက်ပင်။

ဗြိတိသျှ နန်းရင်းဝန် အက်တလီနှင့် ညှိနှိုင်းဆွေးနွေးရန် မသွားမီ ရှမ်းပြည်သို့ ဗိုလ်ချုပ် သွားခဲ့သည်။

၁၉၄၆ ခုနှစ်၊ ဒီဇင်ဘာ ၂၅ ရက်နေ့ည၌ ညောင်ရွှေစော်ဘွားကြီး၏ ဟော်နန်း၌ စော်ဘွားများနှင့် အစည်းအဝေးတစ်ခု လုပ်ခဲ့သည်။

ဗိုလ်ချုပ်က-

"ဗမာပြည်အရေး ဆွေးနွေးရန် ဘိလပ်အစိုးရက ကျွန်တော့်အား ဖိတ်ခေါ်ထားပါတယ်။ ဘိလပ်ရောက်တဲ့အခါ တောင်တန်းနယ်ကိစ္စကိုလည်း ပြောရပါလိမ့်မယ်။ ရှမ်းပြည်၏ အကျိုးအတွက် ကျွန်တော့်ညွှန်ကြားချက်အတိုင်း သဘောတူ လက်မှတ်ထိုးပေးလိုက်နိုင်ရင် အကောင်းဆုံးပါ"

ဟု ပြောခဲ့သည်။ ဒါက နောက်ဖြစ်လာနိုင်သည့်ကိစ္စအား ကြိုတင်ကာကွယ်နိုင်ရန် အစီအစဉ်ချခြင်း ဖြစ်သည်။

သို့သော် အခြေအနေက လက်မှတ်ထိုးပေးနိုင်သည့် အခြေအနေ မရှိ။ စော်ဘွားများကမူ-

"ဗိုလ်ချုပ် စေတနာကို ယုံကြည်ပါတယ်။ ဗိုလ်ချုပ် ညွှန်ကြားချက်ကလည်း အလွန်သင့်

မြတ်ပါတယ်။ သို့ရာတွင် ယခုအစည်းအဝေး
မှာ မြောက်ပိုင်းစော်ဘွားကြီးများလည်း မပါ
သေး။ အရေးကြီးတဲ့ကိစ္စလည်း ဖြစ်နေသည့်
အတွက် မြောက်ပိုင်းစော်ဘွားများနဲ့ တိုင်ပင်
ဆွေးနွေးပြီး ဗိုလ်ချုပ်ထံ အမြန်အကြောင်း
ပြန်ကြားပါမည်”

ဟု ကတိပြုခဲ့သည်။

[၃]

စင်စစ် ဗိုလ်ချုပ်သည် နိုင်ငံရေး အမြင်ကျယ်သလို သဘာဝကို နားလည်သဖြင့် ဤသို့ ဆိုခြင်းပင်။ ဗိုလ်ချုပ်က တိုင်းရင်းသားချစ်ကြည်ရေးအတွက် ကြိုးစားစွမ်းဆောင်နေသကဲ့သို့ ပန်းကေတုဗိုလ်တဲ၌ စခန်းချကာ စော်ဘွားများအား ရှမ်းပြည်နယ် ဗြိတိသျှလက်အောက်၌ ရှိနေစေရန် အင်္ဂလိပ်လူမျိုး စတီးဗင်ဆင်က ညို့ယူစည်းရုံးနေသည်မဟုတ်လား။

စော်ဘွားအချို့က စတီဗင်ဆင်၏ ညို့ယူမှုအား နှစ်သက်ကြသည်။ စည်းလုံးညီညွတ်စွာ မြေပြန့်တောင်ပေါ် လက်မတွဲဘဲ သီးခြား ခွဲထွက်နေရန်ဆန္ဒ ရှိကြ၏။

ထိုသို့ စတီဗင်ဆင်၏ ညို့ယူစည်းရုံးမှုအား အမှန်ထင်သည့် စော်ဘွားအချို့က ဗြိတိသျှနန်းရင်းဝန် အက်တလီထံသို့ သံကြိုးစာ ပို့၏။

သံကြိုးစာ၌-

"ဗိုလ်ချုပ်ဟာ ရှမ်းစော်ဘွားများ၏ ကိုယ်စလှယ် မဟုတ်ကြောင်း၊ တော်တန်းနယ်များကိစ္စ ဆွေးနွေးရန် စော်ဘွားများအား သီးခြားဖိတ်ခေါ်ပါ"

ဟု ပါရှိ၏။

ထိုသံကြိုးစာရောက်လျှင် 'မစ္စတာအက်တလီက-

"ဘယ့်နှယ်လဲ ကိုအောင်ဆန်း၊ စော်ဘွားများရဲ့ ကြေးနန်းစာကို ကြည့်ပါဦး"

ဟုဆိုကာ ဗိုလ်ချုပ်အား ပြလေ၏။

ဗိုလ်ချုပ်က တည်ငြိမ်စွာ သံကြိုးစာအား ယူကြည့်၏။ ဗိုလ်ချုပ်ကား စိတ်ပျက်သည့်အမူအရာ မရှိ။ သူ၏ နဂိုမူနှင့်ပင်-

"သူတို့ကိုယ်စလှယ် မဟုတ်ဘူးဆိုတာ ဟုတ်တာပဲ။ ကျွန်တော်ကတော့ ရှမ်းပြည်ကောင်းဖို့ အတွက် ပြောတာပဲ"

ဟု တုံ့ပြန်ခဲ့၏။

မစ္စတာအက်တလီ မပြောသာပြီ။

ထို့အတူ နောက်တစ်နေ့တွင် တောင်ကြီးမြို့ လူထုစည်းဝေးပွဲမှ ဆုံးဖြတ်ချက်နှင့် ရိုက်လိုက်သည့် ကြေးနန်းစာ ရောက်ခဲ့၏။ ဗိုလ်ချုပ်က ထိုကြေးနန်းစာအား ဗြိတိသျှနန်းရင်းဝန် အက်တလီအား ပြခဲ့၏။

သည်အခါ နန်းရင်းဝန်မစ္စတာအက်တလီက–

"ဒီလိုဆိုရင် ယခုလာမယ့် ဖေဖော်ဝါရီလ
အတွင်းမှာ ပင်လုံမြို့မှာ စော်ဘွားများ စီစဉ်
ထားတဲ့ အစည်းအဝေးမှာကို ကိုအောင်ဆန်းတို့
ပါ ပါဝင်ပြီး မျက်နှာဆုံညီ အစည်းအဝေး
ကျင်းပပြီး ဆုံးဖြတ်ပေတော့"

ဟု ဆိုခဲ့၏။

ဗိုလ်ချုပ်ကလည်း သဘောတူခဲ့၏။

ထို့နောက် 'အောင်ဆန်းအက်တလီစာချုပ်' အား ဂျူန်ဦးစောနှင့် သခင်ဗစိန်က ကန့်ကွက်လက်မှတ်မထိုးဘဲ နေသည့်ကြားမှ အောင်မြင်စွာ ချုပ်ဆိုနိုင်ခဲ့ပြီး မြန်မာနိုင်ငံရေးသမိုင်းတွင် တိုင်းရင်းသားချစ်ကြည်ရေးအတွက် ရာဇဝင်ပြောင်သည့် ပင်လုံညီလာခံပွဲကြီးအား ကျင်းပပြီး နယ်ချဲ့အပေါ် အောင်ပွဲခံနိုင်ခဲ့သည် ဖြစ်သတည်း။

☆ ☆ ☆

# အောင်ဆန်းစုကြည်
## သို့မဟုတ်
## ရဲဝံ့စွာ ဖြတ်သန်းဦးဆောင်သူ

[၁]

အောင်ဆန်းစုကြည်က နူးညံ့ပျော့ပျောင်းသည့် ဘဝပိုင်ရှင်ဟု ထင်ခဲ့သည်။ သူမသည် ဖတဆိုးမိန်းကလေးဖြစ်သဖြင့် သဘာဝတရားအရ စိုးရွံ့စိတ်ရှိသည်ဟု ထင်ခဲ့သည်။ ဒါကလည်း အကြောင်းရှိသည်။ သူမသည် လူမမယ် ကလေးဘဝတွင် ဖခင်ဖြစ်သူ သေဆုံးခဲ့သည်။ သားသမီးတို့အတွက် ဖခင်ဆုံးပါးရခြင်းသည် ငွေတောင်ကြီး ပြိုလဲရခြင်း ဖြစ်၏။

မိခင်၏ ကြင်နာမှု၊ ယုယမှု၊ မေတ္တာစိတ်တို့ဖြင့် ဘဝခရီးအား ဖြတ်သန်းခဲ့ရသူ။ မိခင်ဖြစ်သူ ဒေါ်ခင်ကြည်ကလည်း ဗိုလ်ချုပ်ကတော် ပီသသူ။

အမှီအတွယ်နှင့် ဘဝကို ဖြတ်သန်းသူမဟုတ်။ အခွင့်အရေး ယူတတ်သူမဟုတ်။ ကိုယ့်ခွန်ကိုယ့်အားရှိသလောက် တိုင်းပြည်အတွက်၊ နိုင်ငံအတွက် ကြိုးပမ်းဆောင်ရွက်ခဲ့သူ။

ဗိုလ်ချုပ် ဆုံးပါးသွားပြီးသည့်နောက် ကျန်ရစ်သည့် သားသမီးတို့အား ပညာတတ် လူ့အဖိုးတန်ဖြစ်အောင် သွန်သင် ဆုံးမ၍ ဘဝခရီးနှင်ခဲ့သည်။

ယခုအခါ ကျန်ရစ်သူ သားကြီးအောင်ဆန်းဦးနှင့် အောင် ဆန်းစုကြည်တို့သည် ဝန့်ထည်သည့် ပညာတတ်ကြီးများ ဖြစ် နေပြီ။

သားသမီးတွေကလည်း ဗိုလ်ချုပ်မျိုးဆက် ပီသကြ၏။ ကြိုးစားကြသည်။ ဇွဲလုံ့လနှင့် ပြည့်စုံကြသည်။ ဒါက မျိုးစေ့ မှန်၍ ပင်သန်ကြီးသည်တည်း။

ပြီးတော့ သူမက သံမဏိကြိုးမျှင်...။

[၂]

အောင်ဆန်းစုကြည်၏ဘဝကို သုံးသပ်လေ့လာကြည့် လျှင် သူမသည် အားငယ်စိုးရွံ့စိတ် မရှိ။ လောကဓံကို ရင်ဆိုင် ရဲခြင်း၊ ကိုယ့်ဒူးကိုယ်ချွန်၍ ဘဝတွင် ရှုံးနိမ့်သူမဖြစ်ဘဲ အောင်မြင်သူအဖြစ် ရပ်တည်နိုင်ခဲ့၏။

ပညာရေးလောကတွင် သူက အံ့ဖွယ်သူရဲပင်။

သူမသည် မိခင်ကြီး အိန္ဒိယသံအမတ်တာဝန်မှ အနား ယပြီး မြန်မာပြည် ပြန်လာတော့ မပြီးဆုံးသေးသည့် ပညာရေး ကိစ္စများအား စွမ်းဆောင်ရည်အပြည့်နှင့် ကြိုးစားစွမ်းဆောင်ခဲ့ သည်။ ပညာရေးလုပ်ငန်းများအား လုပ်ကိုင်ရင်း ပညာရေးဘဝ

မြင့်မားအောင် ကြိုးပမ်းခဲ့သူ။

နိုင်ငံရပ်ခြား လူမျိုးကြားတို့ကြား၌ ရှန်းကန်လှုပ်ရှားနေရသူဖြစ်သဖြင့် 'အိုးချင်းထား အိုးချင်းထိ၊ ကြိုးချင်းထား ကြိုးချင်းညှိ' အဖြစ်နှင့် သူ ရင်ဆိုင်ရသည်ဖြစ်မည် ထင်၏။

ထို့ကြောင့် သူမ၏ အချစ်ရေး၊ အိမ်ထောင်ရေးဘဝအား အပြစ်မမြင်မိပါ။ သဘာဝတရားအရ ရေမြေတောတောင် သဘာဝအရ ပန်းတို့သည် အရောင်ပြောင်းတတ်၏။ လူသည်လည်း နီးစပ်မှုနှင့် နှလုံးသားဆန္ဒ စေစားမှုရှိနိုင်သည်ပင်။

လောကတွင် အချစ်ဘဝနှင့် နိုင်ငံရေးဘဝသည် ထပ်တူထပ်မျှရှိမည်ဟု မဆိုသင့်။ အချစ်ရေးနှင့် နိုင်ငံရေး တစ်စိတ်တစ်ပိုင်းစီရှိသည်ကို လူတိုင်း နားလည်သင့်သည်ပင်။

နားလည်ရမည်ပင်။

မည်သို့ဆိုစေ သူမသည် ဖခင်ဗိုလ်ချုပ်၏စိတ်ဓာတ် စိတ်မြတ်နှင့် နိုင်ငံချစ်စိတ်၊ ပြည်သူအား ချစ်စိတ်သည် သူမနှလုံးသားတွင် ကိန်းဝပ်လျက်ရှိသည်ကို သူမ သက်သေပြနေပြီ။

[၃]

သူမသည် အသက် (၄၀) ဝန်းကျင်အထိ နိုင်ငံရေးတွင် ကျင်လည်ခြင်း မရှိ။ မြန်မာပြည်အကြောင်း မပြောသူဟု အချို့က ပြောကြသေးသည်။ ၈၈ ကာလတွင် သူ၏ ဗီဇစိတ်က ဘွားခနဲ ပေါ်ခဲ့၏။

သူမနှင့်ပတ်သက်၍ သူမ နိုင်ငံရေးစင်မြင့်သို့ ရောက်ရှိလာခြင်းနှင့်ပတ်သက်၍ ဘဝင်မကျဟု ဝေဖန်ခဲ့ဖူးသည်။ ဒါကလည်း ကျွန်တော့်တွင် အကြောင်းရှိသည်။

ရိုးသားစွာ ဝန်ခံရလျှင် ကျွန်တော်ကိုယ်တိုင် ကျောင်းသားဘဝက ကွန်မြူနစ်ဝါဒအား နှစ်သက်ခဲ့သည်။ သို့သော် စာဖတ်များလာခြင်း၊ လေ့လာမှုများလာခြင်းနှင့်အတူ ကွန်မြူနစ်ဝါဒ စွဲကိုင်သူများ၏ စရိုက်သဘာဝနှင့် မှားယွင်းမှုအား သိလာသည်။

ဗိုလ်ချုပ်ကိုယ်တိုင် ကွန်မြူနစ်ဝါဒအား ယုံကြည်သူဖြစ်စေကာမူ ကွန်မြူနစ်တို့၏ စရိုက်သဘာဝမှားများကို သိသဖြင့် ဖဆပလမှ ထုတ်ပယ်ခဲ့သည်။

ယင်းအဖြစ်အပျက်များကို လေ့လာမိသကဲ့သို့ ကိုယ်တိုင် ဗမာပြည်ထဲ၌နေပြီး ထိုထိုသော ဝါဒစွဲကိုင်သူများ၏ စရိုက်သဘာဝအား သိခြင်း၊ မြန်မာပြည်သူပြည်သားတို့ သဘောသဘာဝကို သိခြင်းတို့ကြောင့် သူမအပေါ် အထင်မှား အမြင်မှား ဖြစ်ခဲ့သည်ပင်။ ထားတော့။

ကျွန်တော် လေးစားကြည်ညိုရသည့် ဝါရင့်နိုင်ငံရေးသမားကြီးတို့ ကျွန်တော့်အား သွန်သင်သည့်အတိုင်း အချိန်ကို စောင့်ကြည့်မိသောအခါ သူမအား နားလည်လာသည်။

"ဆိုးသူဖြစ်ချင်ဖြစ်မည်၊ ကောင်းသူဖြစ်ချင်ဖြစ်မည်၊ ဆိုးခြင်းကောင်းခြင်းသည် အဓိက

မဟုတ်။ အဓိကသည် ပြုပြင်ပြောင်းလဲရသူ
ဖြစ်ရန်ပင်''

သူမကလည်း ပြောခဲ့သည်ပင်။

ယခုမူ သူမက ပြည်သူလူထုအကျိုးအတွက် သူမ ပြုပြင်ပြောင်းလဲမှုပြုခဲ့ပြီ။ သူမ ပြုပြင်ပြောင်းလဲခဲ့သည့်အတိုင်း အောင်မြင်မှုနှင့် ပြည်သူ၏ ချစ်ခင်လေးစားမှုကို ပိုရှိရခဲ့သည်။

ဒါက ကျေနပ်စရာပင်။ ဖခင်ဖြစ်သူ ဗိုလ်ချုပ်နှင့် ခေါင်းဆောင်ကြီးများ ရယူပေးခဲ့သည့် လွတ်လပ်သော မြန်မာနိုင်ငံတွင် ဒီမိုကရေစီ ထွန်းကားစေရန် သူမ စွမ်းဆောင်နေပြီ။

လောက၌ အများနှင့် ယှဉ်တွဲလျှောက်လှမ်းသည့်ကိစ္စရပ်တွင် ခေါင်းဆောင်နှင့်နောက်လိုက် သဟဇာတ ဖြစ်ရန်လိုသည်။

ဗမာစကား၌ 'မင်းပင်ကောင်းလျှင် မင်းမြှောင်ဖျက်' ဟု ရှိ၏။

ကမ္ဘာ့သမိုင်းအားဖြစ်စေ၊ မြန်မာ့သမိုင်းအားဖြစ်စေ၊ လေ့လာကြည့်လျှင် ဦးဆောင်သူကောင်းပါလျက် နောက်လိုက်မကောင်းသဖြင့် ပျက်စီးရသည့်သာဓကများစွာ ရှိသည်။

ကျွန်တော်သည် သူမအား ဗိုလ်ချုပ်သမီးဖြစ်သဖြင့် ယုံသည်။ သို့သော် အခြားသူများကိုမူ မယုံနိုင်ပေ။ မယုံရဲသေး။ မြန်မာအများစုက သာရာစီးများ၊ ခွနေသူများဖြစ်နေသည်ကို သိနေသောကြောင့် ဖြစ်၏။

သူမက မြန်မာမှုမြတ်နိုးသူ၊ မြန်မာအမျိုးသမီး ပီသသူ။

သူမက စံတစ်ခုနှင့် ရပ်တည်နေသူ။ သူ့နား၌ရှိနေပြီး စံမမီသူ မဖြစ်သင့်။ မြန်မာမှု မြတ်နိုးသူ ဖြစ်သင့်သည်။

သူမ ရပ်တည်မှုနှင့် သူမစံကို နားလည်သင့်သည်။

ထို့အတူ သူမ ဆောက်တည်နေသည့် ဒီမိုကရေစီသရဖူ ဆောင်းနိုင်ဖို့အတွက် ဒီမိုကရေစီနှင့် လျော်ညီသည့် ကျင့်ဝတ်၊ စည်းကမ်း၊ ညီညွတ်မှုရှိနေရန် လိုသည်။

လောက၌ အမှားသည် အပြစ်မဟုတ်။ အမှားကို ဆက်လက်ကျင့်သုံးနေခြင်းသည်သာ အပြစ်ဖြစ်သည်။

ပြည်သူတို့အား လွတ်လပ်ရေးသရဖူ ဆောင်းနိုင်ဖို့အတွက် လွတ်လပ်ရေးနှင့်လျော်ညီသည့် စည်းကမ်းရှိခြင်း၊ ညီညွတ်ခြင်း၊ တက်ညီလက်ညီအလုပ်လုပ်ခြင်း လိုအပ်သည်ဟု ဗိုလ်ချုပ် ပြောဆိုဦးဆောင်ခဲ့သလို ပြည်သူလူထု လိုက်ပါသဖြင့် ပြည်သူတို့ လွတ်လပ်ရေးသရဖူ ဆောင်းနိုင်ခဲ့သည်။

ယခု သူမက ဒီမိုကရေစီသရဖူကြီး ပြည်သူလူထု ဆောင်းနိုင်ရန် ရဲဝံ့စွာ ဦးဆောင်ဖြတ်သန်းနေပြီ။

ပြည်သူလူထုကလည်း ဒီမိုကရေစီနှင့် လျော်ညီသည့် စည်းကမ်းရှိခြင်း၊ ညီညွတ်ခြင်း၊ တက်ညီလက်ညီ အလုပ်လုပ်ခြင်းနှင့် ရဲဝံ့စွာ ဦးဆောင်သူနောက်သို့ သစ္စာရှိစွာ လိုက်ပါဖို့ လိုပြီမဟုတ်လော…။ ။

☆ ☆ ☆

## ဗိုလ်ချုပ်တရား ၊ ဗိုလ်ချုပ်စကား (၁)

### ၁။ နယ်ချဲ့စကား

ရှမ်းပြည်ကိုတော့ အင်္ဂလိပ်က ခြေကုတ်ထားပြီး အခွင့်အရေးတွေကို သူတို့လက်ထဲမှာထားဖို့ စိတ်ကူးရှိနေကြတယ်။

### ၂။ ရာဇဝင်ကြည့်ရင် သိတယ်

ရာဇဝင်မှာကြည့်ရင် တိုင်းပြည် တစ်ပြည်က အခြားတိုင်းပြည်တစ်ပြည်ကို သိမ်းပိုက်ထားတာဟာ စေတနာရှိလို့ မဟုတ်ဘူး။ လိုချင်လို့ သိမ်းပိုက်ထားတာ ဖြစ်တယ်။ လက်လွှတ်ကြပြန်တော့လည်း လက်မလွှတ်ချင်ဘူး။

## ၃။ ကျွန်တော်တို့ဆန္ဒ

ကျွန်တော်တို့က ရှမ်းပြည်ကို လွတ်လပ်စေချင်တယ်။ လွတ်လပ်တယ်ဆိုတာဟာလည်း တိုက်ရိုက်ဖြစ်စေ၊ သွယ်ဝိုက်၍ဖြစ်စေ နိုင်ငံခြားအစိုးရက ချုပ်ခြယ်မှု မရှိစေတဲ့ လွတ်လပ်တာမျိုးကို ဆိုလိုတယ်။

## ၄။ အရေးကြီးတာ ပူးပေါင်းဖို့လိုအပ်ချက်

နိုင်ငံ ပြန်လည်ထူထောင်တဲ့နေရာမှာ ရှမ်းပြည်ကို ရှမ်းအမျိုးသားများ အုပ်ချုပ်လို့ နိုင်ငံရေး၊ စီးပွားရေး၊ ကာကွယ်ရေး ကိစ္စတွေကိုတော့ ကျွန်တော်တို့နဲ့ ပူးပေါင်းဆောင်ရွက်ဖို့ လိုတယ်။ အခုနှယ်အခါမှာ တိုင်းရင်းသားအချင်းချင်းတွေ ညီညွတ်စွာ ပူးပေါင်းဆောင်ရွက်ဖို့ အရေးကြီးတယ်။

*၁၉၄၆၊ ဒီဇင်ဘာ (၂၆) ရက်*
*ညောင်ရွှေလူထုတရားပွဲ*

# ဗိုလ်ချုပ်တရား ၊ ဗိုလ်ချုပ်စကား (၂)

## ၁။ ဗမာတွေ သတိထား

ရှမ်းပြည်မှာ ရောင်းဝယ် ဖောက်ကား နေထိုင်ကြတဲ့ ဗမာတွေကို သတိပေးလိုတယ်။ ရှမ်းအမျိုးသားတွေအပေါ် အထင်မသေးရဘူး။ သွေးချင်းသားချင်းရင်းချာလို သဘောထားရမယ်။

## ၂။ အခမ္မဝါဒ မလုပ်ကြနဲ့

သွေးရင်းသားချင်း ရင်းရင်းချာချာ သဘောထား ရှိမယ်။ သူတို့၏ ဓလေ့ထုံးစံများကို မထေမဲ့မြင် မလုပ်ရဘူး။ ခင်ဗျားတို့ကို အထူးသတိပေးချင် တာက ရှမ်းအမျိုးသားများနှင့် ဆက်ဆံရာတွင် ဓနရှင်ဝါဒသမားတွေလို ခေါင်းပုံဖြတ်တဲ့ အခမ္မ ဝါဒ မလုပ်ရဘူး။

## ၃။ လျစ်လျူရှုနေမယ်

ကျုပ် သတိပေးတဲ့အတိုင်း မလိုက်နာဘဲ ဓနရှင် ဝါဒသမားတွေလို ထင်တာလုပ်နေမယ် ဆိုရင် တော့ ကျုပ်တို့ ဖဆပလ အဖွဲ့ချုပ်ကြီးက ခင်ဗျား တို့အပေါ် လျစ်လျူရှုရမယ်။

*၁၉၄၆၊ ဒီဇင်ဘာ (၂၅) ရက်*
*တောင်ကြီးမြို့၊ လူထုတရားပွဲ*

## ပိုလ်ချုပ်တရား ၊ ပိုလ်ချုပ်စကား (၃)

### ၁။ ဒီကိုရောက်လာတဲ့ကိစ္စ

ကျွန်တော် ဒီကို ရောက်လာတဲ့ကိစ္စ နားလည်တာ တစ်ခုပဲ ရှိတယ်။ ဘာလဲဆိုရင် ဗမာပြည် လွတ်လပ်စေချင်တယ်။ ညီညွတ်စေချင်တယ်။ ကြီးပွားစေချင်တယ်။ ဒီဟာပါပဲ။

### ၂။ ကြိုးစားကြပါ၊ လုပ်ရဦးမယ်

တိုင်းပြည် လွတ်လပ်အောင်၊ ညီညွတ်အောင်၊ ကြီးပွားအောင် ဘယ်လိုလုပ်ရမလဲဆိုတာကို လွန်ခဲ့တဲ့ (၁၀) နှစ်လောက်စပြီး ကြိုးစားခဲ့ပါ တယ်။ နောက်လည်း ကြိုးစားရပါဦးမယ်။

### ၃။ အမျိုးသားရေးဆိုတာ • • •

အမျိုးသားရေးဆိုတာလည်း ရှေ့ခေတ်က ဟာစ် အော်လာတဲ့ 'အမျိုးဘာသာ သာသနာ၊ ပညာ' ဆိုတဲ့စကားမျိုးကို လက်ကိုင် အသုံးပြုလို့ မလုံ လောက်သေးဘူး။

### ၄။ အမျိုးဆိုတာ • • •

အမျိုးဆိုတာမှာ ဘယ်လိုအမျိုးကို အခြေတည် ရမလဲ။ ဗမာ၊ ကရင်၊ ကချင်၊ ချင်းနှင့် အခြား အမျိုးများလည်း ရှိသေးတယ်။

### ၅။ အခြားနိုင်ငံကိုကြည့်

အခြားနိုင်ငံတွေကို ကြည့်လိုက်ရင် ဗမာပြည်မှာ လို တိုင်းရင်းသားတွေရှိတာ တွေ့နိုင်ပါတယ်။ တရုတ်၊ ဂျပန်ပြည်၊ ရုရှားပြည်တို့မှာလည်း ဒီ အတိုင်းပါပဲ။

အမေရိကန်ပြည်မှာ အင်္ဂလိပ်စကား ပြောကြ သော်လည်း အင်္ဂလိပ်၊ အီတလီ စတဲ့ လူအမျိုး မျိုး စုပေါင်းပြီး လူမျိုး တစ်မျိုးဖြစ်အောင် ထူထောင်လျက် သူတို့ကိုယ်ကို အမေရိကန်လို့ ဆိုကြတာပဲ။

## ၆။ ခြားနားမှုတွေ ရှိတယ်

လူမျိုးရေးအားဖြင့် ကြည့်လျှင် အမျိုးတစ်မျိုးတည်းကို လိပ်ခဲတည်းလည်း စွဲပြီးယူမှတ်လို့ မဖြစ်နိုင်တော့ဘူး။ ဘာသာစကားပင်တူသော်လည်း လူမျိုး ခြားနားမှုလည်း ရှိပါတယ်။

ဘာသာစကားမတူသော်လည်း လူမျိုး သီးခြားဖြစ်နေတာလည်း ရှိတယ်။

အမေရိကန်ကြည့်ရင် လူတစ်မျိုးဖြစ်သော်လည်း ဘာသာစကား တူပါတယ်။ ရုရှားပြည်မှာဆိုရင် ဘာသာစကား အမျိုးမျိုး ကွဲသော်လည်း လူမျိုးကတော့ တစ်မျိုးတည်း ဖြစ်တယ်။

## ၇။ သာသနာဆိုတာ . . .

သာသနာဆိုတာကတော့ ကိုယ်ကိုးကွယ်ချင်တဲ့ ဘာသာသာသနာကို ကိုးကွယ်နိုင်ကြတာပဲ။ ဗမာပြည်မှာ လူအများစုက ဗုဒ္ဓဘာသာ ဖြစ်နေပေမယ့် ခရစ်ယာန်ဘာသာ ကိုးကွယ်သူ၊ မဟာဗေဒင်ဘာသာ ကိုးကွယ်သူ၊ နတ်ကိုးကွယ်သူ အမျိုးမျိုးရှိဆဲပဲ။ သည်တော့ ဒါတွေကို စွဲပြီး လူမျိုးရေးတရားလုပ်လို့ မဖြစ်ဘူး။

### ၈။ ယုံကြည်ရာကို ညီညွတ်စွာလုပ်ကြ

ကိုယ့်ဒေသအလိုက် ကိုယ်ယုံကြည်စရာကို ကိုးကွယ် နေထိုင်ကြပြီး တစ်တိုင်းပြည်လုံးနဲ့ သက်ဆိုင်တဲ့ကိစ္စကြီးမျိုးမှာ ညီညီညွတ်ညွတ် လုပ်ကြရင် ဒါဟာ တစ်မျိုးတည်းလို့ ယူဆရမှာပဲ။

### ၉။ အားလုံးနဲ့သက်ဆိုင်တဲ့ကိစ္စ

အချင်းချင်း သဘောထားကွဲလွဲတဲ့ကိစ္စဆိုတာက တော့ နည်းနည်းပါးပါးတော့ ရှိမှာပဲ။ ဒါပေမယ့် သူတစ်ပါးနိုင်ငံက ကိုယ့်နိုင်ငံကို လာရောက် စော်ကားလို့ အသက်စွန့်ပြီး ကာကွယ် တိုက်ခိုက် ကြတာမျိုးကတော့ အားလုံးနဲ့သက်ဆိုင်တဲ့အလုပ် ဖြစ်တာပဲ။

### ၁၀။ တစ်မိန့်ပဲဖြစ်ရမယ်

တိုက်ခိုက်ကြတဲ့အခါမှာလည်း စစ်သေနာပတိ ဟာ ကရင်ဖြစ်ချင်လည်း ဖြစ်မယ်၊ ချင်းဖြစ်ချင် လည်းဖြစ်မယ်၊ ဘယ်သူပဲဖြစ်ဖြစ် တစ်မိန့် တည်း လိုက်နာကြရမှာပဲ။

## ၁၁။ တစ်တိုင်းပြည်လုံး ကြီးပွားချင်ရင်

တစ်တိုင်းပြည်လုံး ကြီးပွားစေချင်ရင် လူအား၊ ငွေအား၊ ပစ္စည်းအားနဲ့ စုပေါင်းပြီး အင်တိုက်အားတိုက် လုပ်ကိုင်နိုင်မှ အကျိုးခံစားခွင့် ရှိကြမှာပဲ။

## ၁၂။ စုပေါင်းလုပ်မှ အကျိုးရှိမယ်

ဗမာကတစ်မျိုး၊ ကရင်က တစ်ဖုံ၊ ရှမ်း၊ ကချင်၊ ချင်းတို့က တခြား၊ တကွဲကွဲ တပြားပြား လုပ်နေကြရင်ဖြင့် အကျိုးရှိမှာ မဟုတ်ဘူး။ စုပေါင်းလုပ်မှသာ အကျိုးရှိနိုင်မယ်။ လုပ်ကြည့်မှလည်း အကျိုးရှိကြောင်း သိနိုင်မယ်။

## ၁၃။ ကြီးပွားချင်ရင်၊ တိုးတက်ချင်ရင် ကမ္ဘာကိုကြည့်

ပထမ ကျုပ်တို့ အဆင်းရဲ ခံရမယ်။ ဒီကနေ့ အင်္ဂလန်မှာ အစားအသောက်၊ အဝတ်အစား ချွေတာနေတယ်။ အဆင်းရဲ ခံနေကြတယ်။ ဒါဟာ ဘာလဲဆိုရင် တစ်ပြည်လုံး အကျိုးရှိအောင်လုပ်နေတာ၊ ဒီထက်ပိုပြီး ခရီးရောက်

အောင် ဆောင်ရွက်ချက်တစ်ခု သိထားဖို့ နား လည်စေချင်တာက အင်ဒိုချိုင်းနား၊ အင်ဒိုနီးရှား စတဲ့ အရှေ့ဘက်နိုင်ငံများ စုပေါင်းဆောင်ရွက် နိုင်တဲ့အား ဖြစ်တယ်။ အဲဒီအားမျိုးရှိရင်တော့ ကမ္ဘာ့ထိပ်တန်း အခြေဆိုက်ရောက်နိုင်မှာပဲ။

## ၁၄။ ချစ်ကြည်မှုအရေးကြီး

နောက်ဆုံး ပြောချင်တာက အင်္ဂလိပ်နဲ့ ကျုပ်တို့ ဟာ (ကျွန်နဲ့သခင်) ဘဝမျိုးတွင် မတည့်ကြ ပေမယ့် လွတ်လပ်တဲ့ဘဝမျိုးဖြစ်ရင် မိတ်ဆွေ အဖြစ် ချစ်ခင်ကြလိမ့်မယ်။

*ပင်လုံညီလာခံ*

*ညစာစားပွဲ၌ ဗိုလ်ချုပ် မြွက်ကြားချက်မှ*

## ပိုလ်ချုပ်တရား ၊ ပိုလ်ချုပ်စကား (၄)

### ၁။ ချစ်ကြည်ရေး အရေးကြီး

ရဲဘော်တို့…
ဂျင်းဖော်တွေနဲ့ အထူးချစ်ကြည်ရင်းနှီးအောင် ဆောင်ရွက်ကြရမယ်။ ဂျင်းဖော-ဗမာချစ်ကြည်ရေးဟာ ငါတို့၏ အရေးကြီးသော လုပ်ငန်းတစ်ရပ်လို့ သဘောထားရမယ်။

### ၂။ သူတို့ဆီရောက်အောင်သွားကြ

တောင်တန်းဒေသ သူတို့ရဲ့ ဌာနရွာများကို ရောက်အောင် သွားကြရမယ်။ အတူနေ၊ အတူစားဖြစ်အောင် ကြိုးစားရမယ်။ သူတို့ရဲ့ကိစ္စအရေးအကြောင်းရှိရင် အမြန်ဆုံး ကူညီ ဆောင်ရွက်ပေးရမယ်။

## ၃။ အမြန်ဆုံး ဆောင်ရွက်ပေးကြ

မြစ်ကြီးနားမှာ ဆောင်ရွက်လို့မပြီးတဲ့ကိစ္စကို မန္တလေးဖြစ်စေ၊ ရန်ကုန်ဖြစ်စေ တိုင်ကြားချက်များ၊ နစ်နာချက်များကို ဌာနချုပ်က သိအောင် အမြန်ဆုံး ဆောင်ရွက်ပေးရမယ်။

## ၄။ အချိန်အခါ သိကြ

ယခုအခါမှာ ဗမာပြည်တွင်းမှာရှိတဲ့ တိုင်းရင်းသားအားလုံး တစ်မျိုးတည်း တစ်တန်းတည်း ဖြစ်အောင် လုပ်ပေးရမယ့်အခါကြီး ဖြစ်တယ်။

## ၅။ လူမျိုးတစ်မျိုးရယ်ဖြစ်လာတော့ . . .

လူမျိုးရေးကိစ္စကြည့်ရင် ဗမာပြည်တွင်းရှိ လူမျိုးတွေဟာ အစက တစ်အိမ်ထောင်ထဲက ပေါက်ဖွားလာတာ ဖြစ်တယ်။ ရေမြေခြားပြီး ရာသီဥတုအလိုက် စတင် ကွဲပြားပြီး တစ်ခုစီတစ်ခုစီ ဖြစ်လာကြတယ်။ နောက်တော့ လူမျိုးတစ်မျိုးရယ်လို့ ဖြစ်လာတာပဲ။

## ၆။ ညီညွတ်ပွင့်လင်းစွာ ပြုပြင်ကြ

တစ်ဦးနဲ့တစ်ဦး တစ်မျိုးနဲ့တစ်မျိုး မတူတဲ့ အခြေ မျိုး ရောက်လာကြတာပဲ။ ဒါကြောင့် သူတို့ရဲ့ ထုံးတမ်းဓလေ့တွေကို သွားကဲ့ရဲ့လို့ မဖြစ်ဘူး။ မသင့်သော ထုံးဓလေ့များဖြစ်စေကာမူ အချင်း ချင်း အသိဉာဏ်ပွင့်လင်းပြီး ပြုပြင်လာမှဖြစ်မယ်။

## ၇။ သတိထားကြ

'ရောမ ရောက်ရင် ရောမလိုကျင့်' ဆိုတဲ့ စကားပုံ ရှိတယ်။ ဂျင်းဖောနဲ့ ချစ်ကြည်လိုလျှင် ဂျင်းဖော နဲ့အတူနေ၊ အတူစားနိုင်အောင် ကြိုးစားရမယ်။ အထင်မသေးရဘူး။ လေးစားရမယ်။ ပေါင်း တတ်ဖို့လည်း လိုတယ်။

## ၈။ ကိုယ့်အရေးထက် သူ့အရေး ဂရုစိုက်ပေး

သူတို့ဟာ လူနည်းစုတွေပဲ။ အသိဉာဏ်နည်းသူ တွေပဲဆိုပြီး လှည့်စားဖို့ မရည်ရွယ်ရဘူး။ မရည် ရွယ်ကြောင်းကိုလည်း လက်တွေ့ လုပ်ပြရမယ်။ သူတို့လူမျိုးအချင်းချင်း အုပ်ချုပ်ခြင်းကိုလည်း ခွင့်ပြုရမယ်။ ကိုယ့်အရေးထက် သူ့အရေးကို ဂရုစိုက်ပေးရမယ်။

## ၉။ အရေးယူသင့်တာ အရေးယူကြ

ခရစ်ယာန် သာသနာပြုဆရာများ ဆောင်ရွက်ပုံကနေ အတုယူစရာတွေ အများကြီး ရှိတယ်။ ပညာသင်ပေးခြင်း၊ ဆေးကုသပေးခြင်း၊ နားမလည်တာကို နားလည်အောင် ပြသပေးခြင်း အားဖြင့် ယုံကြည်ချစ်ခင်မှုကို ရနိုင်တယ်။ ဂျင်းဖော စတဲ့ လူနည်းစုများအပေါ် ဗမာတွေက ညီလေးများလို သဘောထားရမယ်။ ညီလေးတွေ မှားယွင်းတာရှိရင်လည်း သည်းခံရမယ်။

*၁၉၄၆၊ နိုဝင်ဘာလတွင်*
*မြစ်ကြီးနားရောက်ခိုက် မြွက်ကြားချက်များ*

## ပိုလ်ချုပ်တရား ၊ ပိုလ်ချုပ်စကား (၅)

### ၁။ အထီးထီးနေမရ

ကမ္ဘာပေါ်တွင် အရေးပါအရာရောက်သည့် နိုင်ငံကြီးများပင်လျှင် တစ်ဦးတည်း အပေါင်းအသင်း မရှိဘဲ မနေနိုင်။ မတည်တံ့နိုင်။ နီးစပ်ရာနိုင်ငံများနှင့် ပူးပေါင်းရေးအတွက် ဆောင်ရွက်ကြိုးစားနေကြရတယ်။ ဗမာပြည်လည်း နီးစပ်ရာ ပူးပေါင်း ဆောင်ရွက်ရပါမယ်။ အားရှိအောင် ပူးပေါင်းရမယ်။

## ၂။ ပိုအရေးကြီးသည့် အချက်(၁)

ဗမာတိုင်းရင်းသားအချင်းချင်းတို့ . . . စည်းလုံး ညီညွတ်ရန်သည် အထူးအရေးကြီးသည်။ဂျင်း ဖောက တခြား၊ ချင်းက တစ်ဖုံ၊ ရှမ်းက တစ်မျိုး ဆိုသလို ဒဲကွဲကွဲအပြားပြားဖြစ်နေလျှင် ဘယ်သူ မှ အားရှိမှာ မဟုတ်ဘူး။

## ၃။ ပိုအရေးကြီးသည့် အချက်(၂)

ယခုလိုဖြစ်ခဲ့လျှင် ဂျင်ဖောတို့အတွက် ပို၍ အရေး ကြီးသည်ကိုလည်း သတိပြုကြစေလိုသည်။ ဒါ ကြောင့် တသီးတခြားနေလျှင် ဘေးအန္တရာယ် နှင့်မကင်းသည်ကို သတိပြုပြီးလျှင် တိုင်းရင်း သားအချင်းချင်း စည်းလုံးညီညွတ်မှုကို အထူး လိုလားစေလိုတယ်။

*၁၉၄၆၊ ဒီဇင်ဘာ (၁) ရက်*
*မြစ်ကြီးနား (မန်ခင်ရွာ)တွင်မြွက်ကြားသည့်စကား*

## ပိုလ်ချုပ်တရား ၊ ပိုလ်ချုပ်စကား (၆)

၁။ လွှတ်တော်အမတ်တွေရဲ့ တာဝန်

တခြားနိုင်ငံတွေမှာ လွှတ်တော်အမတ်ရယ်လို့ တိုင်းပြည်က တင်မြှောက်လိုက်တဲ့အခါ အဲဒီ လွှတ်တော်အမတ်တွေက လွှတ်တော်အစည်း အဝေး မရှိတဲ့အခါမျိုးမှာ မိမိ အားလပ်ချိန်ရသမျှ အတောအတွင်းမှာ မိမိတို့ကို ရွေးချယ် တင်မြှောက်လိုက်တဲ့နယ်ကို ပြန်သွားပြီးတော့ သူတို့လွှတ်တော်မှာ ဘာတွေ ဖြစ်ခဲ့တယ်၊ ဘာ တွေလုပ်ခဲ့တယ် အစရှိသဖြင့် အခြေအနေ အရပ်ရပ်ကို ကိုယ့်နယ်ကိုယ်ပြန်ပြီး အစီရင်ခံ တဲ့ထုံးစံ ရှိတယ်။

## ၂။ ဒီအခိပ္ပါယ်သက်ရောက်ပါစေ . . .

မြန်မာပြည်မှာလည်း ဒီထုံးစံ ဖြစ်စေချင်တဲ့ အတွက် ဖဆပလအဖွဲ့ချုပ်က တိုက်တွန်းတဲ့ အနေနဲ့ ပြန်လွှတ်ပေမယ့် လွှတ်တော်အမတ်တွေ ဟာ ကိုယ်ဆိုင်ရာနယ်တွေကို ပြန်ပြီး အစီရင်ခံ တဲ့အခိပ္ပာယ် မသက်ရောက်တော့ဘဲ နိုင်ငံရေး ရှင်းတမ်းတရားပွဲလုပ်သလို ဖြစ်နေတယ်။ တင်မြှောက်လိုက်တဲ့ လွှတ်တော်အမတ်အဖြစ်နဲ့ လွှတ်တော်မှာ ဘာတွေလုပ်နေလို့၊ ဘာတွေ ဖြစ်ခဲ့တယ်ဆိုတာ နယ်သူ နယ်သားတွေ သိအောင် အစီရင်ခံဖို့ အခိကရည်ရွယ်ချက်နဲ့ လုပ်သလို ဖြစ်ပါစေ။

## ၃။ နိုင်ငံသစ် (၁)

ကျွန်တော်တို့ဗမာပြည်လို လက်အောက်ခံနိုင်ငံ တွေအဖို့မှာ 'နိုင်ငံသစ်' ဆိုတဲ့သဘောအရ လူမျိုးခြားလက်အောက်က လွတ်မြောက်ပြီးတဲ့ နောက် ကိုယ့်ဟာကိုယ် ကိုယ့်ထီးကိုယ့်နန်း ကိုယ့် အစိုးရနဲ့ ကိုယ့်မင်းကိုယ့်ချင်း ထူထောင်တာကို ကျွန်တော်တို့အဖို့မှာ နိုင်ငံသစ်လို့ ဆိုရမယ်။

## ၄။ နိုင်ငံသစ် (၂)

လွတ်လပ်တဲ့နိုင်ငံတွေဖြစ်တဲ့ ကိုယ့်လူမျိုးအချင်းချင်း အုပ်စိုးတဲ့တိုင်းပြည်တွေမှာတော့ ရှိတဲ့အစိုးရစနစ် အဆောက်အဦတစ်ခုလုံးကို ပြောင်းလဲဖျက်ဆီးပြီးတဲ့နောက် အသစ်ကျပ်ချွတ်စနစ်တစ်မျိုးနဲ့ တိုင်းသစ်ပြည်သစ်စနစ် တည်ထောင်ပုံကတစ်မျိုး။

## ၅။ တိုင်းပြည်ပြုလွှတ်တော်

အဲဒီနှစ်မျိုးလုံး ပေါ်ပေါက်လာတဲ့အချိန်မျိုးမှာ တိုင်းပြည်ပြု လွှတ်တော်ဆိုတာ ထုံးစံအားဖြင့် ပေါ်လာစမြဲ ဖြစ်တယ်။

## ၆။ အသစ်ပြန်လည်ပြုပြင်ဖို့

ဘာဖြစ်လို့ ပေါ်လာရသလဲဆိုရင် အဲဒီလို တိုင်းသစ်၊ နိုင်ငံသစ်ဖြစ်နေတော့ ပြန်ပြီးတော့ ဥပဒေတွေ၊ စနစ်တွေ အကုန်ပြန်ပြီး ရေးဆွဲရမှာဖြစ်တော့ အခြေခံကစပြီး ပြန်ပြီးတော့ ပြုလုပ်ရမယ့်အတွက် ဖြစ်တယ်။

## ၇။ လုပ်ရမယ့်အလုပ်တွေ

ကျွန်တော်တို့ နိုင်ငံသစ်ကို ပြန်လည် ထူထောင်ဖို့အတွက် တိုင်းပြည်ပြုလွှတ်တော်က ပြန်ပြီး ဥပဒေသစ်၊ စနစ်သစ်တွေ ပြန်လည် ရေးဆွဲရပါလိမ့်မယ်။

တိုင်းပြည်သစ်ရဲ့ပုံစံဟာ ဘယ်လိုရှိသင့်တယ်ဆိုတာ တိုင်းပြည်ပြုလွှတ်တော်က ဆုံးဖြတ်ရစမြဲပဲ။ တိုင်းပြည်ပြုလွှတ်တော်က နိုင်ငံသစ်ထူထောင်ဖို့တာဝန်ပဲ။

## ၈။ နိုင်ငံသစ်ထူထောင်ဖို့အတွက်

နိုင်ငံသစ်ကို ထူထောင်ဖို့အတွက် ပေါ်ပေါက်လာတဲ့ တိုင်းပြည်ပြုလွှတ်တော်ဟာ အချုပ်အခြာနဲ့ ပြည့်စုံဖို့လိုတယ်။ အဲ့ဒီလို အချုပ်အခြာအာဏာနဲ့ မပြည့်စုံရင် ကိုယ်တည်ချင်တဲ့နိုင်ငံမျိုးကို တည်နိုင်မှာမဟုတ်ဘူး။

*၁၉၄၇၊ ဇူလိုင် (၁၃) ရက်*
*ရန်ကုန်မြို့တော်ခန်းမ၊ လူထုတဲ့ဈေးပွဲ*

## ဗိုလ်ချုပ်တရား ၊ ဗိုလ်ချုပ်စကား (၇)

### ၁။ စဉ်းစားကြ

ခင်ဗျားတို့ သေသေချာချာ သတိထားစေချင်တာက ကျွန်တော်တို့ ဗမာပြည်မှာ ပေါ်လာတဲ့ နိုင်ငံရေးအဖွဲ့တွေ၊ နိုင်ငံရေးခေါင်းဆောင်တွေ အားလုံးကို တစ်ယောက်စီ တစ်ယောက်စီ ခင်ဗျားတို့စိတ်ထဲမှာ မာတိကာစဉ်ပြီး ကြည့်ကြစမ်းပါ"

### ၂။ အဖြေပေါ်မယ်

ဒီလို စဉ်းစားအဖြေရှာရင် ဘယ်လိုလူစားတွေလဲ၊ ဘယ်လိုအဖွဲ့ကြီးလဲဆိုတာ ခင်ဗျားတို့ စဉ်းစားမှု အဖြေပေါ်လာမယ်။

## ၃။ ခင်ဗျားတို့သိမယ်

ကျုပ်တို့က အစိုးရလုပ်နေတဲ့ အချိန်အခါမျိုး ဖြစ်တယ်။ အတိုက်အခံဆိုတာ ရှိစမြဲပဲ။ ဘုရားလက်ထက်၊ ဘုရားကိုယ်တိုင်ပင် အတိုက်အခံနဲ့ မကင်းပါဘူး။ ဒီတော့ ကျုပ်တို့လည်း မကင်းနိုင်ဘူး။

## ၄။ တပ်ပျက်ဗိုလ်လုပ်ရတာ

ကျုပ်တို့ အစိုးရလုပ်တဲ့အချိန်အခါမျိုးကလည်း တပ်ပျက်မှာ ဗိုလ်လုပ်ရတဲ့အချိန်အခါမျိုးမှာ ဖြစ်နေတယ်။ ကျုပ်တို့မှာ ချို့ယွင်းချက်တွေ အမြောက်အများ ရှိတယ်ဆိုတာ ကျုပ်တို့ကိုယ်တိုင် သိတယ်။

## ၅။ ချို့ယွင်းချက်ဆိုတာ• • •

ဘယ်အစိုးရမဆို ချို့ယွင်းချက်ဆိုတာ ရှိမယ်။ ချို့ယွင်းချက် မရှိတဲ့အစိုးရဆိုတာ မရှိဘူး။ တိုင်းပြည်မှာ စေတနာထားပြီးတော့ကော တစ်ဆင့်ထက်တစ်ဆင့် တက်ပြီးလုပ်ခဲ့တာ၊ တိုးတက်သလား၊ မတိုးတက်ဘူးလားဆိုတာ ခင်ဗျားတို့ စဉ်းစားကြည့်ပါ။

## ၆။ သတိထားဖို့

လူတွေက အခုနေအခါမှာ မိမိပါတီ ပြန်ပြီး အာဏာရအောင် ခြေထိုးကြတယ်။ ခြေထိုးတဲ့ အခါမှာ အယောင်ယောင် အမှားမှား ဖြစ်နေတဲ့လူတွေဟာ စေတနာပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ တိုင်းပြည်သစ္စာဖောက်တဲ့ ရန်သူနံပါတ်(၁) ဖြစ်တယ်။ အဲဒီရန်သူတွေကို ခင်ဗျားတို့ ထောက်ခံချင်တယ်ဆို ခင်ဗျားတို့လည်းပင်း ခင်ဗျားတို့ ကြိုးတပ်ပေတော့။

## ၇။ အဓမ္မလုပ်လို့မရဘူး

ဒီတိုင်းပြည်မှာ အစိုးရဖြစ်အောင် အတင်းအဓမ္မ လုပ်လာလို့၊ အစိုးရဖြစ်လာတာ၊ ဖြစ်တာ မဟုတ်ဘူး။ တိုင်းပြည်လူထု ထောက်ခံချက်ကြောင့် ကျုပ်တို့ အစိုးရဖြစ်နေတာ။

## ၈။ ခင်ဗျားတို့သိမယ်

တိုင်းပြည်လူထု ယုံကြည်မှု မရှိဘူး၊ မကြည်ညိုဘူးဆိုရင် ကျုပ်တို့လည်း တွယ်မနေကြပါဘူး။ ထွက်မှာပါပဲ။ သို့သော်လည်း ကျုပ်တို့ကို

တစ်နှစ်လောက် စောင့်ကြည့်တဲ့အခါမှာ ကျုပ်တို့ဟာ ဘယ်လိုလူစားတွေလဲ၊ ရာဇဝင်ထဲ အရေးခံရမယ့်လူတွေလား၊ ရာဇဝင်မှာ အဆဲခံရမယ့်လူတွေလားဆိုတာ ခင်ဗျားတို့ကိုယ်တိုင် သိလိမ့်မယ်။

## ၉။ လွတ်လပ်ပြီဆိုပြီ

လွတ်လပ်ရေးရတယ်ဆိုပြီး လူတကာ သွားတဲ့လမ်းမှာ ဆေးလှန်တယ်။ အဲဒါ လွတ်လပ်ရေးမဟုတ်ဘူး။ အဲဒါဟာ လမ်းသွားလမ်းလာလုပ်တဲ့သူတွေကို နှောင့်ယှက်ရာ ရောက်တယ်။

## ၁၀။ လွတ်လပ်ရေးအဓိပ္ပာယ်

လွတ်လပ်ရေးဆိုတဲ့အဓိပ္ပာယ်က ကိုယ်တစ်ယောက် ကောင်းစားဖို့ဖြစ်စေ၊ လူတစ်မျိုးလုံးကောင်းစားဖို့ဖြစ်စေ တခြားလူတွေရဲ့ အကျိုးကိုမထိခိုက်ဘဲနဲ့ ကိုယ်ကျိုးအတွက် လုပ်နိုင်တာလွတ်လပ်ရေးပဲ။

## ၁၁။ ရမ်းကားမှုမဖြစ်စေနဲ့

တခြားလူတွေကို နှောင့်ယှက်တဲ့ လွတ်လပ်ရေးဟာ လွတ်လပ်ရေးမဟုတ်ဘူး။ အဲဒါကို (Cliconse) ရမ်းကားမှု ခေါ်တယ်။ အဲဒီတော့ လွတ်လပ်ရေးဆိုတာ စည်းမဲ့ကမ်းမဲ့ သဘောမျိုး မဟုတ်ဘူး။ စည်းနဲ့ကမ်းနဲ့သဘောမျိုးဖြစ်တယ်။

## ၁၂။ တိုင်းပြည်ကာကွယ်ရေးတာဝန်

ဒီတိုင်းပြည်ကို အင်္ဂလိပ် အုပ်ချုပ်နေတုန်းက ဒီတိုင်းပြည်ကို ကာကွယ်ဖို့ အင်္ဂလိပ်အစိုးရ တာဝန် ဖြစ်တယ်။ ဗမာပြည် လွတ်လပ်ရေးရတဲ့အခါ မှာ ဗမာပြည်ကို ကာကွယ်ရမယ့်တာဝန်ဟာ ကျွန်တော်တို့တာဝန် ဖြစ်တယ်။ အရင်တုန်း ကလို အေးအေးဆေးဆေးနေလို့ မဖြစ်တော့ဘူး။

## ၁၃။ တိုင်းပြည်ကာကွယ်ဖို့

ကျွန်တော်တို့တိုင်းပြည် အစိုးရလုပ်တဲ့ လူတွေက တိုင်းပြည်ကာကွယ်ဖို့အတွက် ဗမာပြည်မှာ စစ်သားတွေ နည်းတယ်ဆိုရင် ဗမာတိုင်း ဗမာ တိုင်း အရွယ်ရောက်တဲ့လူမှန်သမျှ ကျန်းမာတဲ့လူ မှန်ရင် စစ်ထဲ မဝင်မနေရဆိုပြီး စနစ်နဲ့ ဖြစ်လာ

လိမ့်မယ်။ ၂ နှစ်တန်သည်ဖြစ်စေ၊ ၃ နှစ်တန် သည်ဖြစ်စေ စစ်ထဲဝင်ရမယ်။ တိုက်ချင်မတိုက် ချင် ဝင်တိုက်ရမယ်။

## ၁၄။ ထက်မြက်တယ်ဆိုတဲ့ ဗမာစိတ်ဓာတ်

ကျွန်တော်တို့ ဗမာတွေရဲ့စိတ်ဓာတ် ထက်မြက် တယ်ဆိုတာ တလွဲဆံပင် ကောင်းနေတာပဲ။ တကယ့်နေရာကျတော့ အသုံးမကျဘူး။ ဗမာ ဗမာချင်းချဖို့ လုပ်ချင်တယ်။ ပြန်လည်ထူထောင် ရေး လုပ်တဲ့နေရာမှာ အသုံးမချချင်ဘူး။ ဗမာ အချင်းချင်းချဖို့ လုပ်ချင်တယ်။ ဒါတွေလုပ်ချင် ရင် ဘယ်တော့မှ အကျိုးခံစားခွင့်ရမှာ မဟုတ် ဘူး။ ဒီတိုင်းပြည် ပြန်လည်မထူထောင်နိုင်ဘူး။ နှာလန်မထူနိုင်ဘူး။ အဲဒီလိုစိတ်ဓာတ်မျိုး လုံးဝ ဖျောက်ပစ်ဖို့ လိုတယ်။

## ၁၅။ အတိအလင်းပြောတယ်

ကျွန်တော်တို့တိုင်းပြည်မှာ စည်းကမ်းကို မရှိ သလောက် ဖြစ်နေတယ်။ ဒီမှာတော့ နိုင်ငံရေး လုပ်တဲ့နေရာတွေမှာ ယခုနေအခါမှာ နယ်ချဲ့ သမား သဘောကျမယ့်အလုပ်မျိုး လုပ်နေတယ်။

၁၆။ ဆူပူတာနဲ့ပတ်သက်လို့ စဉ်းစားကြည့်
တိုင်းပြည်မှာ မငြိမ်မသက်ဖြစ်နေတဲ့ကိစ္စတွေ၊ ဆူဆူပူပူ ဖြစ်နေတဲ့ကိစ္စတွေ တိုင်းပြည်အတွက် အကျိုးရှိသလား၊ မရှိဘူးလားဆိုတာ ခင်ဗျားတို့ စဉ်းစားကြည့်ပါ။

## ၁၇။ အားလုံး ကူညီဝိုင်းဝန်းကြ

အရင်တစ်ခါ ကျွန်တော် ပြောခဲ့သလို နိုင်ငံရေးဘက်က အေးနေပြီးတော့ ဘာမဟုတ်တဲ့နေရာမှာ ဆူတာပူတာကတော့ ပိုလာသလို ဖြစ်နေတယ်။ အဲဒီလို မဟုတ်တဲ့နေရာမှာ ဆူပူသောင်းကျန်းမှုတွေကို ဗမာပြည်မှာရှိတဲ့လူတွေက အားလုံး ကူညီဝိုင်းဝန်းဖို့လိုတယ်။ ဘယ်သူ့ကိုမှ အားပေးဖို့ မလိုဘူး။

## ၁၈။ အားလုံး အလုပ်လုပ်ကြ

ကျွန်တော်တို့အားလုံး အလုပ်လုပ်ကြဖို့ လိုတယ်။ ဒီလိုလုပ်မှ ကျွန်တော်တို့ ရည်မှန်းတဲ့ အချိန်ပိုင်းအတွင်းရမယ်။ ဆက်လက်ပြီး အလုပ်လုပ်နိုင်မှ အနှစ် (၂၀) လောက်ကြာတဲ့အတွင်းမှာ တန်ကာကျမယ်။

## ၁၉။ ပညာရေးကဏ္ဍ

ပညာရေးမှာ အောက်တန်းနောက်တန်းကျ ဖြစ်နေတယ်။ အခမဲ့ မသင်မနေရ မူလတန်း၊ ဥပဒေလုပ်ပေးပါလို့ ပြောတယ်။ ဥပဒေ လုပ်ပေးမယ်၊ ဘယ်လောက် ကြိုးစားမှ၊ ဘယ်လောက်ကြာမှ အဲ့ဒီလို အခမဲ့ မူလတန်း မသင်မနေရပညာဟာ ဗမာတစ်ပြည်လုံးရဲ့ ရွာတိုင်းမြို့တိုင်းမှာဖြစ်မယ်ဆိုရင် အနှစ် (၂၀) လောက်ကြာမှ ဖြစ်မယ်။

## ၂၀။ ဆရာတွေကိစ္စ၊ ကျောင်းကိစ္စ

အခုရှိနေတဲ့ဆရာတွေ အင်အားနည်းနေတယ်။ ဒီဆရာတွေကို သင်ရမယ့် ကောလိပ်ကျောင်းတွေ၊ နော်မံကျောင်းတွေ၊ တိုင်းပြည်တစ်ပြည်လုံးမှာ ဒီကျောင်းတွေ၊ အဆောက်အဦးတွေရှိရမယ့် ကိရိယာ တန်ဆာပလာပစ္စည်းတွေ စုံစုံလင်လင်ရှိရမယ်။ အဲဒီအတွက် ကုဋေပေါင်းများစွာ ကုန်မယ်။ အနှစ် (၂၀) လောက်ကြိုးလုပ်ပါမှ ဗမာပြည်တစ်ပြည်လုံး အခမဲ့ မူလတန်းပညာ မသင်မနေရဆိုတာ ရွာတိုင်း၊ မြို့တိုင်းမှာ ဖြစ်နိုင်မယ်။

## ၂၁။ ကာကွယ်ရေးကိစ္စ

ဗမာပြည်မှာရှိတဲ့စစ်တပ်က ဆူတာပူတာ နှိမ်နင်းဖို့လောက်ပဲ လုံလောက်တယ်။ ဒါတွေ နှိမ်နင်းဖို့ စစ်တပ်ရော၊ ပုလိပ်ရော နှစ်ဆ ပိုထားတယ်။ ဒါကြောင့် နှစ်ဆ ပိုစရိတ်ကုန်တယ်။ ဘယ်သူ့ဆီကငွေနဲ့ ပေးရလဲဆိုရင် ခင်ဗျားတို့ပေးတဲ့ အခွန်ထဲက ပေးရတာ။ အဲဒါကြောင့် ဈေးတွေကြီးနေတယ်။ သို့ပေမယ့် တိုင်းပြည်ကာကွယ်ဖို့ဘက်မှာ ကျွန်တော်တို့စစ်တပ်တွေနဲ့ မလုံလောက်သေးဘူး။

## ၂၂။ တိုင်းပြည် မကာကွယ်နိုင်သေးဘူး

ကုန်းတပ်ဆိုတဲ့စစ်တပ်ဟာ ဘာမှမဖြစ်လောက်သေးဘူး။ သံချပ်ကာ ကားတပ် မရှိသေးဘူး။ ဒီတပ်မျိုးဟာ ခုလိုဖြစ်တဲ့စစ်မျိုးဆိုရင် တော်တော်တန်တန် ကြီးမားတဲ့ရန်သူက လက်နက်ကောင်းကောင်းနဲ့ တိုက်တယ်ဆိုရင် နာရီပိုင်းအတွင်း ရင်ဆိုင်လိုက်ရင် ပြုတ်သွားမယ်။

ရေတပ်ဆိုလည်း ဘန်းပြရေတပ်ပဲ။ တိုင်းပြည် မကာကွယ်နိုင်သေးဘူး။

## ၂၃။ တိုင်းပြည် ကာကွယ်နိုင်ဖို့

လေတပ်ဆိုလည်း ဒီတိုင်းပြည်မျိုးမှာ အဖျင်းဆုံး လေယာဉ်ပျံ ငါးရာ (First Line Plane) ရှိရမယ်။ အနည်းဆုံး စစ်ဖြစ်ဖြစ်ချင်း လေယာဉ်ပျံ ငါးရာ လောက်ရှိမှ ဖြစ်မယ်။ ဒါတောင် လုံလောက်တယ်လို့ မပြောနိုင်ဘူး။ ကျွန်တော်တို့တိုင်းပြည် ကာကွယ်ရေးအတွက် အဖျင်းဆုံး စစ်သား တစ်သန်းလောက် စစ်စဖြစ်စလောက်မှာ လိုတယ်။ ဘယ်လောက်ကုန်မယ်ဆိုတာ ခင်ဗျားတို့ တွက်ကြည့်။ ဒါတောင် NAVY ရေတပ် မပါဘူး။ Air Force မပါဘူး။

## ၂၄။ အခုကတည်းက စလုပ်၊ ရပ်မနေနဲ့

ဒီတော့ ဒီငွေ ကျွန်တော်တို့ အမြန်ဆုံး ရအောင် လုပ်ရမယ်။ နောက်တစ်ခါ စစ်ကြီးမဖြစ်ခင် အမြန်ဆုံးရအောင် လုပ်ရမယ်။အဲဒီအတော အတွင်းမှာ ဟိုနားက မထိတထိ စ,တာ၊ ဒီနားက မထိတထိ စ,တာ ကျွန်တော်တို့ ပြန်ပြီးချရဦးမယ်။

## ၂၅။ အလုပ်လုပ်ကြ

ခင်ဗျားတို့ အားသွန်ခွန်စိုက် အလုပ်လုပ်ရမယ်။ ဘာအစိုးရတက်တက် ခင်ဗျားတို့ အလုပ်မလုပ်လို့ရှိရင် မဖြစ်ဘူးဆိုတာ ကျွန်တော် ရဲရဲကြီး ပြောရဲတယ်။

## ၂၆။ ညီညွတ်မှုအရေး ထိန်းသိမ်းပေး

ခင်ဗျားတို့ စည်းကမ်းရှိကြပါ။
ညီညွတ်မှုကို ထိန်းသိမ်းကြပါ။
ထူထောင်မှုကို လုပ်ကြပါ။
အဲဒီလိုလုပ်ပြီးတဲ့နောက်လည်း ခံစား စံစားချင်တယ်ဆိုရင် စည်းကမ်းရှိကြဖို့၊ အလုပ်လုပ်ကြဖို့ အခုကတည်းက ခင်ဗျားတို့ရဲ့ အကျင့်ဆိုးတွေ၊ အကျင့်ပျောင်းတွေကို ပြင်ကြဖို့လိုပြီ။

*၁၉၄၆ ၊ ဇန်နဝါရီလ ဖဆပလ အဖွဲ့ချုပ်၊*
*ပကြိုမ်ညီလာခံတွင် မြွက်ကြားချက်*

## အောင်ဆန်းစုကြည်၏
## ငြိမ်းချမ်းရေးစိတ်ထားစကား

### ၁။ ငြိမ်းချမ်းရေးစိတ်

အေးတူပူအမျှ အတူနေနိုင်ကြဖို့ ငြိမ်းချမ်းရေးစိတ် ရှိရမယ်။

### ၂။ ဂုဏ်ပြုချင်တယ်ဆိုရင်

ကျွန်မကို ဂုဏ်ပြုချင်တယ်ဆိုရင် ငြိမ်းချမ်းရေးကို ဂုဏ်ပြုကြပါ။ တကယ်ပဲ မေတ္တာအရ၊ ကရုဏာအရ ဂုဏ်ပြုချင်တယ်ဆိုရင် ငြိမ်းချမ်းရေးရအောင် ဝိုင်းလုပ်ကြပါ။

## ၃။ အားလုံးကို ဂုဏ်ပြုခြင်း

ငြိမ်းချမ်းရေးရအောင် ဝိုင်းလုပ်ပေးတယ်ဆိုတာ ကျွန်မတင်မကဘူး၊ ဒီနိုင်ငံအတွက် အကျိုးဆောင်သွားတဲ့ ပုဂ္ဂိုလ်တွေအားလုံးကို ဂုဏ်ပြုရရောက်ပါတယ်။

## ၄။ စဉ်းစားကြည့်ကြပါသလား

လူတွေက ငြိမ်းချမ်းရေး…ငြိမ်းချမ်းရေးဆိုပြီး ပြောနေကြတော့ ငြိမ်းချမ်းရေးရဲ့ ခံစားမှုကို ဘယ်လိုနားလည်ကြလဲ၊ ငြိမ်းချမ်းရေးအရသာကို ဘယ်လို နားလည်ရမလဲဆိုတာ ကျွန်မ စဉ်းစားကြည့်တယ်။ ဘာဖြစ်လို့လဲဆိုတော့ ငြိမ်းချမ်းရေးလိုချင်လှချည့်ရဲ့လို့ ပြောနေကြတဲ့ လူတွေကိုယ်တိုင်က ငြိမ်းချမ်းရေးဟာ ဘာလဲဆိုတာ ဆင်ခြင် သုံးသပ်ကြရဲ့လားလို့ ကျွန်မ စဉ်းစားမိတယ်။

## ၅။ ငြိမ်းချမ်းရေးဆိုတာ

ကျွန်မအနေနဲ့ ငြိမ်းချမ်းရေးဆိုတာကို တကယ့်ကို ရိုးရိုးစင်းစင်းနဲ့ လွယ်လွယ်ကလေးပြောရမယ်ဆိုရင် ကျွန်မတော့ ဒီလိုပြောချင်တယ်။ ငြိမ်းချမ်းရေးဆိုတာဟာ အိပ်တဲ့အခါ ချမ်းသာရမယ်၊ နိုးတဲ့အခါ ချမ်းသာရမယ်။ ဒါပါပဲ။

## ၆။ အထူးစဉ်းစားရမယ့်အချက်

ကျွန်မတို့ ပြည်သူပြည်သားတွေအားလုံးကို ငြိမ်းချမ်းစေချင်တယ်။ အထူးသဖြင့် ယခုအချိန်မှာ စစ်ပွဲတွေကြောင့် အေးအေးချမ်းချမ်း မနေရတဲ့ ကျွန်မတို့ရဲ့ တိုင်းရင်းသားတွေကို အထူးပဲ စဉ်းစားမိပါတယ်။

## ၇။ ငြိမ်းချမ်းရေးပန်းတိုင်ရောက်ဖို့

ကျွန်မတို့နိုင်ငံမှာ ငြိမ်းချမ်းရေးရဖို့ဆိုရင် အတိတ်က အကုသိုလ်တွေကို အခုပစ္စုပ္ပန်နဲ့ အနာဂတ်အတွက် ကုသိုလ်ယူနိုင်အောင် ကြိုးစားရမယ်။ အဲဒီလိုလုပ်နိုင်မှသာ ကျွန်မတို့ လိုချင်တဲ့ပန်းတိုင်ကို ရနိုင်မယ်။

## ၇။ အားပေးတိုက်တွန်းချင်တာ

ဒါက မဖြစ်နိုင်တဲ့ကိစ္စမျိုးတော့ မဟုတ်ပါဘူး။ အကုသိုလ်တွေကို ကုသိုလ်ဖြစ်အောင်လုပ်ခဲ့တဲ့ အဲဖရက်နိုဘယ်လ်ကို သတိရပြီးတော့ ကျွန်မတို့ တစ်တွေလည်း အကုသိုလ်ထဲကနေ ကုသိုလ် တွေပွားပြီး ငြိမ်းချမ်းရေးပန်းတိုင်ကို အရောက် လှမ်းဖို့ အားပေးချင်ပါတယ်။ တိုက်လည်းတိုက် တွန်းချင်ပါတယ်။

## ၉။ အခွင့်အရေးကို လက်မလွှတ်စေနဲ့

အရင်ခေတ်အဆက်ဆက်က မရခဲ့တဲ့ ငြိမ်းချမ်း ရေးကို အခုအချိန်မှာ လုပ်နိုင်ဖို့ အခွင့်အရေး တွေ ရနေပြီဆိုတဲ့စိတ်တွေထားပြီး ဒီအခွင့်အရေး ကို လက်မလွှတ်တမ်း အသုံးပြုစေချင်တယ်။

စာကိုး-

နိုဘယ်လ်ငြိမ်းချမ်းရေးဆုရခြင်း
နှစ် (၂၀) ပြည့်ဂုဏ်ပြုပွဲအခမ်းအနား၌
အောင်ဆန်းစုကြည် ပြောကြားသည့်စကားများမှ

☆ ☆ ☆

**မိခင်နောင်ကြိုးဖြည်ပါအုံ့**
**သို့မဟုတ်**
**အဖေ့ကိုယ်စား အမေ့ကိုယ်ပွား**
**သမီးရဲ့ကဗျာ**

- သည်းစွာသောအနာကို
  ကုစားပါအုံ့။
  သမီး၏လုံ့လ ဝီရိယဖြင့်
  နာလန်ထူပါစေအုံ့။
- မွေးကျေးဇူးကို မသိတတ်သော
  ထိုသူတို့အား သိနားလည်အောင်
  ဆွဲဆောင်နိုင်စွမ်းကို
  သမီးအား ပေးပါလေ။
- တွေ့ရအုံ့သော ဘေးရန်တို့ကို
  သမီးထီမည်မဟုတ်။

အားမာန်သစ်စာပေ

- တစ်ဘဝတွင် တစ်ခါသာ သေရသည်ဖြစ်၍
  အဘယ်နည်းနှင့် သေရသည်ဖြစ်စေ
  သမီး၌ မထူးခြား။
- သမီး၏စိတ်ကူးတို့
  အဘယ်အဖြစ်သို့ ရောက်သောအချိန်တွင်
  အသင်တို့သည်လည်း
  ပျော်မြူးကြရမည်။
- အခြားအခြားသောသူတို့၏
  ရှုတ်ချခြင်း
  ကဲ့ရဲ့ခြင်း
  မုန်းတီးရွံရှာခြင်း
  နာမည်ပျက်ခြင်းတို့ကို
  သမီး အလျဉ်းဂရုမပြု။
- မိခင်ထံမှ ဒါမှ ငါ့သမီးဟူသော
  ကျူးရင့်သံကိုသာ
  တောင့်တပါ၏။
- လောကတွင် မိခင်၏ကျေးဇူးကို
  အသိတတ်ဆုံး သမီးဖြစ်ရပါလို···။

(အောင်ဆန်းစုကြည်)

## အောင်ဆန်းစုကြည် ရရှိခဲ့သည့်ဂုဏ်ထူးဘွဲ့ထူးများ

| စဉ် | ဆုတံဆိပ်၊ဘွဲ့ထူး ဂုဏ်ထူးအမည် | နိုင်ငံ | ခုနှစ် |
|---|---|---|---|
| ၁။ | St Hugh ကောလိပ်ဂုဏ်ထူးဆောင် အဖွဲ့ဝင် | အောက်စဖို့၊ဗြိတိန် | ၁၉၉၀ |
| ၂။ | Thorold Rafto လူ့အခွင့်အရေးဆု | နော်ဝေ | ၁၉၉၀ |
| ၃။ | Sakharov အတွေးအခေါ် လွတ်လပ်ခွင့်ဆု | ဥရောပပါလီမန် | ၁၉၉၁ |
| ၄။ | နိုဘယ်လ်ငြိမ်း ချမ်းရေးဆု | အော်စလို၊နော်ဝေ | ၁၉၉၁ |
| ၅။ | PEN နိုင်ငံတကာဂုဏ်ထူး ဆောင်အဖွဲ့ဝင် | နော်ဝေ | ၁၉၉၁ |

| | | |
|---|---|---|
| ၆။ လူလူချင်းစာနာမှုဆိုင်ရာ လူ့အခွင့်အရေးဆု | အမေရိကန် | ၁၉၉၁ |
| ၇။ PEN နိုင်ငံတကာဂုဏ်ထူးဆောင် အဖွဲ့ဝင် | ကနေဒါ | ၁၉၉၁ |
| ၈။ Marisa Bellisario ဆု | အီတလီ | ၁၉၉၂ |
| ၉။ နိုင်ငံတကာလူ့အခွင့်အရေး နှစ်ပတ်လည်ဆု | Law Group (USA) | ၁၉၉၂ |
| ၁၀။ စီးပွားရေးနှင့်နိုင်ငံရေးသိပ္ပံ လန်ဒန်ကျောင်း၏ ကျောင်းသား သမဂ္ဂဂုဏ်ထူးဆောင်ဥက္ကဋ္ဌ | ဗြိတိန် | ၁၉၉၂ |
| ၁၁။ PEN နိုင်ငံတကာဂုဏ်ထူးဆောင် အဖွဲ့ဝင် | English Centre | ၁၉၉၂ |
| ၁၂။ လန်ဒန်တက္ကသိုလ်သမဂ္ဂ ဂုဏ်ထူး ဆောင်ရာသက်ပန်အဖွဲ့ဝင် | ဗြိတိန် | ၁၉၉၂ |
| ၁၃။ Honorary Professional Fellowship Law and Society Trust | သီရိလင်္ကာ | ၁၉၉၂ |
| ၁၄။ သမ်မာဆတ်တက္ကသိုလ်နိုင်ငံရေးသိပ္ပံ ဂုဏ်ထူးဆောင်ဒေါက်တာဘွဲ့ | ထိုင်း | ၁၉၉၂ |
| ၁၅။ နိုင်ငံတကာ Simon Bolivar ဆု | ယူနက်စကို | ၁၉၉၂ |
| ၁၆။ Prix Litteraire des Droits de I'Homme Nouveausx Droits de K'Homme | ပြင်သစ် | ၁၉၉၂ |

၁၇။ ယဉ်ကျေးမှုနှင့်ဖွံ့ဖြိုးတိုးတက်ရေး
ဆိုင်ရာ ကမ္ဘာ့ကော်မရှင်
ဂုဏ်ထူးဆောင်အဖွဲ့ဝင် ယူနက်စကို ၁၉၉၂

၁၈။ Academic Universelle
des Culture အဖွဲ့ဝင် ပါရီ ၁၉၉၃

၁၉။ Rose Prize arbejderbevaegelsens
အင်တာနေရှင်နယ်ဖိုရမ်/ဒိန်းမတ်အလုပ်သမား
လှုပ်ရှားမှုနိုင်ငံတကာဖိုရမ် ကိုပင်ဟေဂင် ၁၉၉၃

၂၀။ လူ့အခွင့်အရေးနှင့် ဖွဲ့စည်းပုံ ဥပဒေဆိုင်ရာ
Victor Jara
နိုင်ငံတကာ လူ့အခွင့်
လော့စ်အိန်ဂျလိစ်အရေးစင်တာ USA ၁၉၉၃

၂၁။ ကျန်းမာရေးနှင့်လူ့အခွင့်အရေးဆိုင်ရာ
Board Francois Xavier Bagnoud ဟားဗတ်
Center အကြံပေး တက္ကသိုလ် ၁၉၉၃
ဘုတ်အဖွဲ့ဝင်

၂၂။ တိုရွန်တိုတက္ကသိုလ်ဂုဏ်ထူးဆောင်
ဒေါက်တာဘွဲ့ ကနေဒါ ၁၉၉၃

၂၃။ Giugli ကေသမြို့၊ မြို့အုပ်ချုပ်ရေး
အဖွဲ့၏ လွတ်လပ်ခွင့်ဆု အီတလီ ၁၉၉၃

၂၄။ Bremen Solidarity
City of Bremen ဂျာမနီ ၁၉၉၃

၂၅။ Premio Mujer Progresista
(Federacion Mujeres Progresista
စပိန်တိုးတက်သော
အမျိုးသမီးများအဖွဲ့ချုပ်) မက်ဒရစ် ၁၉၉၃

၂၆။ Philosophy & Letters, Free ဘရပ်ဆယ်
ဂုဏ်ထူးဆောင်ဒေါက်တာဘွဲ့ တက္ကသိုလ် ၁၉၉၄

၂၇။ အာရှ-ပစိဖိတ် ဒီမိုကရေစီခေါင်းဆောင်
များဖိုရမ် ဂုဏ်ထူးဆောင်အကြံပေး - ၁၉၉၄

၂၈။ The Freedom of the City Aversa အီတလီ ၁၉၉၅

၂၉။ Liberal International Prize for Freedom
Britanint, Liberal Democracy Party ဗြိတိန် ၁၉၉၅

၃၀။ Laws Quen's University
ဂုဏ်ထူးဆောင်ဒေါက်တာဘွဲ့ ကနေဒါ ၁၉၉၅

၃၁။ ၁၉၉၃ ခုနှစ်အတွက် နိုင်ငံတကာ
နားလည်မှုဆိုင်ရာ
ဂျာဝါဟာလာနေရူးဆု အိန္ဒိယ ၁၉၉၅

၃၂။ ဂန္ဒီဆု၊ ဆိုင်မွန်ဖရေဇာ ကနေဒါ ၁၉၉၅
တက္ကသိုလ်

၃၃။ အောက်စဖို့ဒ် Civil Law တက္ကသိုလ်၏
ဂုဏ်ထူးဆောင်ဒေါက်တာဘွဲ့ - ၁၉၉၅
၃၄။ နိုင်ငံတကာ ကယ်ဆယ်ရေးကော်မတီ
IRC လွတ်လပ်ခွင့်ဆု - ၁၉၉၅
၃၅။ Companion of the Order
of Australia ဩစတြေးလျ ၁၉၉၆
၃၆။ Liberal International Prize ဗြိတိန် ၁၉၉၆
၃၇။ Asia Human Rights of Law ဂျပန် ၁၉၉၆
၃၈။ W.Averell Harrimen Democracy
Award, National Democratic အမေရိကန်
Institute ပြည်ထောင်စု ၁၉၉၆
၃၉။ Rajiv Shmirti Parashka
(ရာဂျစ်ဂန္ဓီအမှတ်တရဆု) အိန္ဒိယ ၁၉၉၆
၄၀။ Empty Chair Award Women Of
the Year Lunck လန်ဒန်၊ဗြိတိန် ၁၉၉၆
၄၁။ Charles University ဥပဒေ ပရာဟာ၊
ဂုဏ်ထူးဆောင် ချက်သမ္မတနိုင်ငံ ၁၉၉၇
ဒေါက်တာဘွဲ့
၄၂။ ဆစ်ဒနီနည်းပညာတက္ကသိုလ် Letters
ဆိုင်ရာဂုဏ်ထူးဆောင် ဩစတြေးလျ ၁၉၉၇
ဒေါက်တာဘွဲ့

၄၃။ ကာလီဖိုးနီးယား Chapmam
တက္ကသိုလ် Letter ဆိုင်ရာ အမေရိကန်
ဂုဏ်ထူးဆောင် ပြည်ထောင်စု ၁၉၉၇
ဒေါက်တာဘွဲ့

၄၄။ Natal တက္ကသိုလ် ဥပဒေဂုဏ်ထူး
ဆောင်ဒေါက်တာဘွဲ့ တောင်အာဖရိက ၁၉၉၇

၄၅။ America တက္ကသိုလ်ဥပဒေ
ဂုဏ်ထူးဆောင်ဒေါက်တာဘွဲ့ USA ၁၉၉၇

၄၆။ Distinguished Alumni Award
Central University , ဒေလီတက္ကသိုလ် ၁၉၉၇

၄၇။ ရောမမြို့ဂုဏ်ထူးဆောင် အီတလီ ၁၉၉၇
နိုင်ငံသားဆု

၄၈။ Glas gow တက္ကသိုလ် Letterဆိုင်ရာ
ဂုဏ်ထူးဆောင်ဒေါက်တာဘွဲ့ ဗြိတိန် ၁၉၉၇

၄၉။ Pearl S. Buck Woman's Awardပါးလ်စ်ဘတ်
ဖောင်ဒေးရှင်း
USA ၁၉၉၇

၅၀။ International Award St. Angela's Peace
and Instice Group, WaterFord (Eire) ။ ၁၉၉၇

၅၁။ ProFile in Courage Award Kennedy
Society of Denmark ဒိန်းမတ် ၁၉၉၇

| | | | |
|---|---|---|---|
| ၅၂။ | ကင်းဘရစ်ချ်၊ တက္ကသိုလ်ဂုဏ်ထူး ဆောင်ဒေါက်တာဘွဲ့ | ဗြိတိန် | ၁၉၉၈ |
| ၅၃။ | Freedom of the city Oxford, | ဗြိတိန် | ၁၉၉၈ |
| ၅၄။ | Wale Cardiff တက္ကသိုလ် ဂုဏ်ထူးဆောင်ဒေါက်တာဘွဲ့ | ဗြိတိန် | ၁၉၉၈ |
| ၅၅။ | Bristol တက္ကသိုလ်ဂုဏ်ထူးဆောင် ဥပဒေဒေါက်တာဘွဲ့ | ဗြိတိန် | ၁၉၉၈ |
| ၅၆။ | Melbourne တက္ကသိုလ်ဂုဏ်ထူး ဆောင်ဥပဒေ ဒေါက်တာဘွဲ့ | ဩစတြေးလျ | ၁၉၉၈ |
| ၅၇။ | Honorary Degree University Catholigue Delouvain | ဘယ်လ်ဂျီယံ | ၁၉၉၈ |
| ၅၈။ | Bath တက္ကသိုလ် ဂုဏ်ထူးဆောင်ဒီဂရီ | ဗြိတိန် | ၁၉၉၈ |
| ၅၉။ | Bucknell တက္ကသိုလ် ဂုဏ်ထူးဆောင်ဒီဂရီ | - | ၁၉၉၉ |
| ၆၀။ | အင်တာနေရှင်နယ် ရီပတ်ဗလစ်ကင် သိပ္ပံလွတ်မြောက်ရေးဆု | အမေရိကန် ပြည်ထောင်စု | ၁၉၉၉ |
| ၆၁။ | The Freedom of the City of Dublin Award | အိုင်ယာလန် | ၁၉၉၉ |

၆၂။ ၂၀၀၀ CAW နယ်ဆင်မန်ဒဲလား
လူ့အခွင့်အရေးဆု ကနေဒါ ၂၀၀၀
၆၃။ လွတ်မြောက်ရေး အမေရိကန်
ဆိုင်ရာသမ္မတဆု ပြည်ထောင်စု ၂၀၀၀
၆၄။ Collage United Nation Prize ဂျာမနီ ၂၀၀၁
၆၅။ International Social Welfare Prize
University of Sonthern California အမေရိကန်
School of Social Work ပြည်ထောင်စု ၂၀၀၁
၆၆။ AI Newhairth Free Spirit Award ဝါရှင်တန်
U.S Foundation အမေရိကန်
ပြည်ထောင်စု ၂၀၀၃
၆၇။ MTV Humannitarian Award
"Free Yanmind" MTV Europe အီဒင်ဘာရာ၊
ဗြိတိန် ၂၀၀၃
၆၈။ The 2004 TIME 100, The Mostinfluential
People in the World တိုင်း(မ်)မဂ္ဂဇင်း ၂၀၀၄
၆၉။ Kwangiu Human Rights Award
May 18 mermory Foundation တောင်ကိုရီးယား ၂၀၀၄
၇၀။ Time's Asia's Hero 2004 တိုင်း(မ်)မဂ္ဂဇင်း ၂၀၀၄
၇၁။ ပါရီမြို့ ဂုဏ်ထူးဆောင် ပြင်သစ် ၂၀၀၄
နိုင်ငံသားဘွဲ့ရ

၇၂။ Rand Sit တက္ကသိုလ်နိုင်ငံရေး၊
ဒဿနိကနှင့် စီးပွားရေးဆိုင်ရာ
ဂုဏ်ထူးဆောင်ဒေါက်တာဘွဲ့ ထိုင်း ၂၀၀၄

၇၃။ Outstanding Women in Buddhism
United Nations Gender and
Religious department ကုလသမဂ္ဂ ၂၀၀၅

၇၄။ Thammasat တက္ကသိုလ်နိုင်ငံရေးသိပ္ပံ
ဂုဏ်ထူးဆောင်ဒီဂရီ ထိုင်း ၂၀၀၅

၇၅။ Freedom of the City Award the City
Council of Edinburgh စကော့တလန် ၂၀၀၅

၇၆။ Freedom of Galway City အိုင်ယာလန် ၂၀၀၅

၇၇။ UNISON Honorary Membership
UNISON, ဗြိတိန် ၂၀၀၅
Bratains Largest Trade Union

၇၈။ Olof Plame Prize ဆွီဒင် ၂၀၀၆

၇၉။ Freedom Award Franklim and အမေရိကန်
Eleanor Roosevelt Institiue ပြည်ထောင်စု ၂၀၀၆

၈၀။ New State men Magazine Hero New Statemen
မဂ္ဂဇင်း ၂၀၀၆

၈၁။ Netaji Subhas Chandra Bose
International Deshprem Award အိန္ဒိယ ၂၀၀၇

၈၂။ ကိပ်တောင်းတက္ကသိုလ် လူ့အခွင့်အရေး
တက်ကြွ လှုပ်ရှားမှုဆိုင်ရာဂုဏ်ထူးဆောင်
ဥပဒေဒေါက်တာဘွဲ့ တောင်အာဖရိက ၂၀၀၇

၈၃။ Freedom of Glasgow the Freedom
of Scotlands largest City စကော့တလန် ၂၀၀၇

၈၄။ Rome For Peace Humanitarian
Aciton City of Rome အီတလီ ၂၀၀၇

၈၅။ Politics PSA တွင် တစ်သက်တာ
အောင်မြင်မှုအတွက်အထူးဆု ဗြိတိန် ၂၀၀၇

၈၆။ Abogados De Atocha Castilla-la
Mancha Region စပိန် ၂၀၀၈

၈၇။ ကွန်ဂရက်ဆိုင်ရာရွှေတံဆိပ်ဆု၊ကွန်ဂရစ်၏
အမြင့်ဆုံး အမေရိကန် ၂၀၀၈
အရပ်သားဂုဏ်ထူးဆောင်ဆု

၈၈။ Honary Canadian Citizenship
Parliament Hill in Ottawa ကနေဒါ ၂၀၀၈

၈၉။ Dundee မြို့
လွတ်မြောက်ရေးဆု စကော့တလန် ၂၀၀၈

၉၀။ Catalonia နိုင်ငံတကာဆု၊ ၂၀၀၈
Mothers of Courage ဘာစီလိုနာ

| | | |
|---|---|---|
| ဒေါက်တာစင်သီယာမောင်နှင့် ပူးတွဲလျက် | စပိန် | ၂၀၀၈ |
| ၉၁။ Madrid Club de Madrid ဂုဏ်ထူးဆောင်အဖွဲ့ဝင် | မက်ဒရစ်၊ စပိန် | ၂၀၀၈ |
| ၉၂။ ကမ္ဘာ့အမျိုးသမီးခေါင်းဆောင်များ၏ ဂုဏ်ထူးဆောင်အဖွဲ့ဝင် | ဝါရှင်တန်ဒီစီ အမေရိကန် | ၂၀၀၈ |
| ၉၃။ Trumpet of Conscience Award Realizing The Dream (လူ့အခွင့်အရေးခေါင်းဆောင် ဒေါက်တာမာတင်လူသာကင်းကို ဂုဏ်ပြုဖွဲ့စည်းသည့် အကျိုးအမြတ်မယူသည့် အဖွဲ့အစည်း) | ဝါရှင်တန်ဒီစီ အမေရိကန် | ၂၀၀၉ |
| ၉၄။ ဂလပ်စကိုမြို့ လွတ်မြောက်ရေးဆု | စကော့တလန် | ၂၀၀၉ |
| ၉၅။ ငြိမ်းချမ်းရေးနှင့်ပြန်လည်သင့်မြတ်ရေးဆိုင်ရာမဟတ္တမဂန္ဒီနိုင်ငံတကာဆု | တောင်အာဖရိက | ၂၀၀၉ |
| ၉၆။ ဂျပန်ဒိုင်းယက်လွှတ်တော်အဖွဲ့ဝင်များ၏ ဒီမိုကရေစီနှင့်ငြိမ်းချမ်းရေးဆု | ဂျပန် | - |

၉၇။ Derrys Millennium Forthm ဂုဏ်ထူး ဆောင်ဥပဒေဒေါက်တာဘွဲ့ (LLD) အိုင်ယာလန် ဗြိတိန် ၂၀၀၉

၉၈။ The Ambassador of Conscience Award the recepient of Amnesty Internationals Highest Honory အိုင်ယာလန် ၂၀၀၉

၉၉။ Banazir Bhutto Shaheed Award For Demoiracy instituted the pakistan peoples parts ပါကစ္စတန် ၂၀၁၀

၁၀၀။ Honorary Individual Membership Council of Asian Liberals and Democrats (CALD) ပါကစ္စတန် ၂၀၁၀

၁၀၁။ မြန်မာ့ဒီမိုကရေစီနှင့်လူ့အခွင့်အရေး ဆိုင်ရာ ဘုရင်မ အိန္ဒိယ ၂၀၁၀

၁၀၂။ Queen of Myanmar's Democracy and Human Rights Manav Ekta Parishad, India 2010, November 25 မြန်မာ့ဒီမိုကရေစီရေးနှင့်လူ့အခွင့်ရေး ဘုရင်မဘွဲ့ အိန္ဒိယ ၂၀၁၀

၁၀၃။ Honorary Degree-Doctor of Law Carleton University, Ottawa, Canada 2011, February 22 (ဂုဏ်ထူးဆောင်ဥပဒေပါရဂူဘွဲ့) ကနေဒါ ၂၀၁၁

၁၀၄။ Global Leadership Award (Trail-Blazer)-
Voice of Decade Vita Voices Global Partnership,
USA 2011, April 12
ကမ္ဘာလုံးဆိုင်ရာ အမေရိကန်
ခေါင်းဆောင်မှုဆု၊ ပြည်ထောင်စု ၂၀၁၁

၁၀၅။ The 2011 Time 100 Poll
(the 100 most influential people in the world)
Times Magazine, USA 2011, April 21
ကမ္ဘာ့သြဇာအရှိဆုံးပုဂ္ဂိုလ်
၁၀၀ စာရင်းဝင်၊ တိုင်းမ်မဂ္ဂဇင်း USA ၂၀၁၁

၁၀၆။ Eleanor Roosevelt Awards for Global Women's
Rights Feminist Majority Foundation, USA 2011,
April 26 အယ်လီနာရူစဗဲလ်ဆု အမေရိကန်
ပြည်ထောင်စု ၂၀၁၁

၁၀၇။ Freedom of the City (an Honorary Freewoman of the
city of Brighton & Hove) Brighton & Hove City Council,
UK 2011, May 19
မြို့တော် ဂုဏ်ထူးဆောင်ဆု ယူကေ ၂၀၁၁

၁၀၈။ Cote Saint-Lue Human Rights Walkway Pierre Elliott Trudeau Park, The City of Cote Saint-Luc, Quebec, Canada 2011, June 6

ကိုစိန့်လုမြို့တော် လူ့အခွင့်အရေး ဂုဏ်ထူးဆောင်ဆု ကနေဒါ ၂၀၁၁

၁၀၉။ Doctor Litterarum et Philosophiae (honoris causa) (an Honorary Doctoral Degree) University of Johannesburg (UJ), South African 2011, June 24

ဂုဏ်ထူးဆောင်ပါရဂူဘွဲ့ တောင်အာဖရိက ၂၀၁၁

၁၁၀။ Chatham House Prize 2011 The Royal Institute of International Affairs, Chatham House, UK 2011, September 22

ချာသမ်ဟောက်စ်ဂုဏ်ထူးဆောင်ဆု ယူကေ ၂၀၁၁

၁၁၁။ Oxi Day: Battle of Crete Award Oxi Day Foundation, USA 2011, October

အောက်ဆီဒေးခရိတ် တိုက်ပွဲဆု အမေရိကန်ပြည်ထောင်စု ၂၀၁၁

၁၁၂။ Freedom Award Freedom House, USA 2011, October

လွတ်မြောက်ရေး ဂုဏ်ထူးဆောင်ဆု အမေရိကန်ပြည်ထောင်စု ၂၀၁၁

၁၁၃။ Wallenberg Medal University of Michigan, USA 2011, October

ဝဲလ်လန်းဘတ် ဂုဏ်ထူးဆောင်ဆု အမေရိကန် ပြည်ထောင်စု ၂၀၁၁

၁၁၄။ ပြင်သစ်နိုင်ငံ၏ အမြင့်ဆုံးဂုဏ်ထူးဆောင်ဆု (Legiol d' Honour) ပြင်သစ် ၁၅-၁-၂၀၁၂

၁၁၅။ ဘနာဇီဟာဘူတို ဒီမိုကရေစီဆု ပါကစ္စတန် ၁၅-၁-၂၀၁၂

❑ ❑ ❑

## အဖေ့ကိုယ်ပွား အမေ့ကိုယ်စား
## နှလုံးသားနှင့်ရင်းနှီးထားသူ

အရာရာသည် သေချာစွာ စူးစမ်းသုတေသနပြုကြည့်မှ အမှတ်မထင်ဖြစ်စဉ်များမှ အမှတ်တရဖြစ်စဉ်များဖြစ်ခဲ့သည်ကို တွေ့ရသည်။

အောင်ဆန်းစုကြည် ဘဝသမိုင်း၊ ဘဝဖြတ်သန်းမှုအား အသေအချာ ဆန်းစစ်ကြည့်မှ သူ့ဘဝတွင် အထင်ကရ ကိုယ်စားပြုခြင်း၊ ကိုယ်ပွားဖြစ်ခြင်းများစွာ ရှိနေသည်ကို ကိုယ်တွေ့ရမည် ဖြစ်သည်။

သူမဘဝတွင် ဖခင်ဖြစ်သူ၏ ချစ်ကြင်နာမှု၊ ယုယ ပိုက်ထွေးမှုနှင့် မေတ္တာ၏နွေးထွေးမှုများအား မခံစားခဲ့ရ။

သူမ လူမမယ်ဘဝ၌ ဖခင်ဖြစ်သူသည် နယ်ချဲ့စနစ်၏ ဆိုးမွေနှင့် မသမာသူ၏လုပ်ကြံမှုကြောင့် သေဆုံးခဲ့ရသည်။

သူမသည် ဖတဆိုးဘဝဖြင့် မိခင်ဖြစ်သူ၏ရင်ခွင်၌ မလုံ မခြုံနှင့် ဘဝကို ဖြတ်သန်းခရီးနှင်ခဲ့ရသည်။ သူမအတွက် တစ်ခုကံကောင်းသည်က မိခင်ဖြစ်သူသည် အဖြူရောင်နှလုံးသား ပိုင်ရှင်။

ကျန်ရစ်ခဲ့သည့် သားသမီးများအား ကြက်သားအုပ်မကြီး နှင့် အုပ်မိုးကာ သားသမီးများဘဝရှေ့ရေးအတွက် ချို့တဲ့ဆင်းရဲ စွာ ရုန်းကန်ရင်း သားသမီးများအား မျက်နှာမငယ်အောင်ထားခဲ့ သည်။

ယင်းသမို့ သူမနှင့်အစ်ကိုဖြစ်သူ ဦးအောင်ဆန်းဦးတို့၏ ဘဝအနာဂတ်သည် အေးချမ်းဖူလုံခဲ့၏။

မိဘနှစ်ပါး၏ တိုင်းပြည်နှင့်လူမျိုးအပေါ်ထားရှိသည့် ပကတိစိတ်ရင်းအား သူ အမွေရခဲ့၏။

ထိုအမွေက အခြားမဟုတ်။

တိုင်းပြည်အပေါ် ချစ်စိတ်နှင့် တိုင်းရင်းသားလူမျိုးများ ငြိမ်းချမ်းသာယာစေရေး ဖြစ်သည်။

* * *

အောင်ဆန်းစုကြည်ဘဝအားကြည့်လျှင် အောင်ဆန်းစုကြည်သည် ပညာကြွယ်သော၊ ပညာပြည့်စုံသောသူတစ်ဦးဖြစ်သည်ကို ငြင်းစရာမရှိ။

အောင်ဆန်းစုကြည်သည် ပညာရှင်စာရေးဆရာ ဖြစ်သည်။

ဗိုလ်ချုပ်ဘဝအား ပြန်ကြည့်လျှင်လည်း ဗိုလ်ချုပ်အောင်ဆန်းသည် ငယ်စဉ်တောင်ကျေး လူမှန်းသိစကတည်းက တိုင်းပြည်လွတ်လပ်ရေး၊ တိုင်းရင်းသားလူမျိုးများ သူ့ကျွန်ဘဝမှ လွတ်မြောက်ရေးအတွက် စဉ်ဆက်မပြတ် ရုန်းကန်ကြိုးစားနေရသဖြင့် ပညာကို ဆုံးခန်းတိုင်အောင် မသင်ခဲ့ရ။

သို့သော် ဗိုလ်ချုပ်သည် ပညာရေးညံ့ဖျင်းသူမဟုတ်ခဲ့။ ပညာရေးသည် တိုင်းပြည်တိုးတက်ရေးအတွက် အဓိကကျကြောင်း သိခဲ့သဖြင့် တိုင်းသူပြည်သားတို့အား ပညာကြိုးစားဖို့ နှိုးဆော်ခဲ့သည်။

"ကျွန်တော်တို့နိုင်ငံ တိုးတက်ဖွံ့ဖြိုးဖို့အတွက်
ပညာရေးစနစ်ကောင်းတွေ၊ စနစ်သစ်တွေနဲ့
ပညာတတ်တွေပေါ်များဖို့ ကြိုးစားရမယ်"

ဟု ဆိုခဲ့သည်။ ပြီးတော့ ဗိုလ်ချုပ်ကိုယ်တိုင် အောင်ဆန်းစုကြည်အပေါ် အလေးထားခဲ့သည်။

"သမီးစုဟာ ထက်ထက်မြက်မြက် ကလေး
ဖြစ်မှာ"

ဟု ပြောခဲ့ဖူးကြောင်း ရဲဘော်ဟောင်းများမှတ်တမ်းတင်သည့် ဗိုလ်ချုပ်အကြောင်းတွင် ဖတ်ရှုခဲ့ရဖူးသည်။

ဗိုလ်ချုပ် မျှော်တွေးမှန်းဆခဲ့သလို အောင်ဆန်းစုကြည်သည် ထက်မြက်သူတစ်ဦး ဖြစ်သည်။ အောင်ဆန်းစုကြည် ပညာတတ်မကြီးဖြစ်နေပြီဟု ဗိုလ်ချုပ် မြင်လျှင် ဝမ်းသာပေလိမ့်မည်။

သိလျှင် ပျော်ရွှင်ပေလိမ့်မည်။

ဗိုလ်ချုပ်အောင်ဆန်းက မြန်မာနိုင်ငံသူနိုင်ငံသား၊ တိုင်းရင်းသားပြည်သူများအတွက် လွတ်လပ်ရေးသည် အရေးကြီးသဖြင့် လွတ်လပ်ရေးအတွက် အရာရာစွန့်လွှတ်ခဲ့သလို ဗိုလ်ချုပ်ကိုယ်တိုင် လွတ်လပ်ရေးအတွက် စွန့်လွှတ်စွန့်စား၍ တိုက်ပွဲဝင်ခဲ့သော်လည်း လွတ်လပ်ရေးရလျှင်ဆိုသည့် မျှော်မှန်းချက်မထားခဲ့။

ဗိုလ်ချုပ်က အကျိုးလို၍ ညောင်ရေလောင်းသူမဟုတ်။

ဗိုလ်ချုပ်အောင်ဆန်းသည် စစ်သားဘဝက လွတ်လပ်ရေးအတွက် ရဲဘော်သုံးကျိပ်နှင့် ဦးဆောင်ကာ တပ်မတော်ဖွဲ့စည်းခဲ့ပြီး နယ်ချဲ့ကို တိုက်ထုတ်ခဲ့သည်။

ဖက်ဆစ်ဆန့်ကျင်ရေး တိုက်ပွဲဝင်ခဲ့သည်။

ဖက်ဆစ်ဆန့်ကျင်ရေးပြီးတော့ ဗိုလ်ချုပ်သည် နိုင်ငံရေးလောကတွင်းသို့ဝင်ခဲ့သည်။

ဗိုလ်ချုပ်အောင်ဆန်းသည် နိုင်ငံရေးလုပ်စားသူမဟုတ်။

နိုင်ငံရေးလုပ်စားသည့် နိုင်ငံရေးစားဖားကြီးများ၊ ဝါဒစွဲသမားများ အာဏာတည်ဆောက်ရေးအား ရွံမုန်းခဲ့၏။

ထို့ကြောင့် ဗိုလ်ချုပ်က လွတ်လပ်ရေးရပြီးလျှင် နိုင်ငံရေးလောကမှ ထွက်သည့်အကြောင်း၊ စာရေးဆရာလုပ်မည့်အကြောင်း ပြောကြားခဲ့၏။

သို့နှယ်ပင် ဗိုလ်ချုပ်အောင်ဆန်းက တိုင်းပြည်နှင့်လူမျိုးအကျိုး အရှည်မျှော်ကိုးတွက်ဆ ပုံပိုးကူညီရန် ဆန္ဒအပြည့်ရှိသူဖြစ်သဖြင့် လွတ်လပ်ရေးရပြီးလျှင် နိုင်ငံရေးစားဖားကြီးတွေနေရာမဖဲ့နိုင်အောင် ဝေဖန်ရေးသားပြီး ပြည်သူအား အသိပေးမည်ဟု တရားဝင်ကြေညာခဲ့သည်ဟု ကွယ်လွန်သူစာရေးဆရာတက္ကသိုလ်နေဝင်း (အပါးတော်မြဲ ဗိုလ်ထွန်းလှ) က ပြောပြသဖြင့် မှတ်သားရသည်။

ပြောရလျှင် ဗိုလ်ချုပ်အောင်ဆန်းသည် စာပေချစ်သူ၊ စာရေးဆရာဖြစ်ချင်သူ ဖြစ်၏။

ယခု ဗိုလ်ချုပ်အောင်ဆန်း မျှော်ကိုးအားထားသည့်အတိုင်း 'သမီးစုလေးကတော့ ထက်မြက်ထူးချွန်သူဖြစ်မှာပါ' ဟု အနာဂတ်အရေး ဗိုလ်ချုပ် မျှော်တွေးပြောခဲ့သလို အောင်ဆန်းစုကြည်က ထက်မြက်သူဖြစ်ခဲ့ပြီ။

ဖခင်ဖြစ်ချင်သည့်ဆန္ဒအား လက်တွေ့ဖော်ထုတ်ပြခဲ့ပြီ။

ပညာတတ်၊ ပညာရှင် စာရေးဆရာမတစ်ဦး ဖြစ်နေပြီ။ ထိုမျှမက အမိမြန်မာနိုင်ငံ၏ တိုင်းရင်းသားများ အနာဂတ်

အတွက် ဒီမိုကရေစီနိုင်ငံသစ် ထူထောင်ရန် ပြုပြင်ပြောင်းလဲရေး၊ အမျိုးသားပြန်လည်သင့်မြတ်ရေးနှင့် ငြိမ်းချမ်းရေးအတွက် စွမ်းဆောင်ကြိုးပမ်းနေသည့် မြန်မာနိုင်ငံ၏ တစ်ဦးတည်းသော ငြိမ်းချမ်းရေးနိုဘယ်ဆုရှင်အဖြစ် ရပ်တည်နေသည်။

ဗိုလ်ချုပ်သာမြင်လျှင် ဝမ်းသာမည်ပင်။

ရှိလျှင် ပျော်မည်။

"ဒါမှ ငါ့သမီး"

ဟု ဂုဏ်ယူဝင့်ကြွားစွာ ဆိုမည်မှာမုချ။

✧ ✧ ✧

## ဗိုလ်ချုပ်အောင်ဆန်း
## သို့မဟုတ်
## သမိုင်းနဲ့လူ၊ ရာဇဝင်နဲ့လူ

(၁)

"အောင်ဆန်းဟာ မြန်မာပြည်အတွက် သမိုင်း
လိုအပ်ချက်အရ ပေါ်ပေါက်လာသူ"

ဟု စာရေးဆရာကြီး မောရစ်ဘောလစ်က ပြောခဲ့သည်။ မှန်သည်။ အောင်ဆန်း ပေါ်လာသဖြင့် နယ်ချဲ့ဆန့်ကျင်ရေး အောင်ပွဲရခဲ့သည်။ နယ်ချဲ့အုပ်စိုးမှု နိဂုံးချုပ်ခဲ့သည်။

မြန်မာနိုင်ငံသည် အချုပ်အခြာအာဏာပိုင်သည့် လွတ်လပ်သည့်နိုင်ငံ တစ်နိုင်ငံအဖြစ် ကမ္ဘာ့အလယ်တွင် ဝင့်ထည်စွာ ပေါ်ပေါက်ခဲ့သည်။

အောင်ဆန်းက မြန်မာနိုင်ငံအား သမိုင်းသစ်ရေးခဲ့သည်။

အနော်ရထာ၊ ဘုရင့်နောင်ကျော်ထင်၊ အလောင်းမင်းတရားကြီးတို့က မြန်မာနိုင်ငံအား ပထမမြန်မာနိုင်ငံ၊ ဒုတိယမြန်မာနိုင်ငံ၊ တတိယမြန်မာနိုင်ငံအဖြစ် ထူထောင်နိုင်သကဲ့သို့ အမျိုးသားခေါင်းဆောင်ကြီး ဗိုလ်ချုပ်အောင်ဆန်းက စတုတ္ထမြန်မာနိုင်ငံအား ထူထောင်ခဲ့သည်။

ယနေ့ မိမိနှင့်တိုင်းရင်းသားလူမျိုးများ နေထိုင်သည့် မြန်မာနိုင်ငံအား လွတ်လပ်ရေးရရှိစေရန် ဗိုလ်ချုပ်အောင်ဆန်းနှင့် တော်လှန်ရေးရဲဘော်များ စွမ်းဆောင်ခဲ့သည်။

၁၈၈၅ ခုနှစ် မြန်မာနိုင်ငံ ကိုယ့်အရှင်ကိုယ့်သခင် နေခဲ့သည့်ဘဝမှ မြန်မာတွေ စည်းကမ်းဖောက်၍ ထီးကျိုးစည်ပေါက်ပြည်ပျောက်ခဲ့ရသည်။

ထို့ကြောင့် သူ့ကျွန်အဖြစ် နှံနှစ်မခံနိုင်သော မျိုးချစ်သူရဲကောင်းများစွာက ရရာလက်နက်စွဲကိုင်၍ နယ်ချဲ့ကို တော်လှန်ခဲ့သည်။

သို့သော် အောင်မြင်မှုမရခဲ့။

အဘယ့်ကြောင့် အောင်မြင်မှုမရခဲ့သည်ကို ဆန်းစစ်ဝေဖန်ကြည့်လျှင် မြန်မာတွေသည် မျိုးချစ်စိတ်ရှိသူ၊ ဇာတိသွေးဇာတိမာန် ထက်သန်သူများဖြစ်ကြသော်လည်း ပညာရေးအင်အားနည်းခဲ့၏။

ပညာဉာဏ်နည်းသဖြင့် စဉ်းစားဆင်ခြင်ဉာဏ် နည်းပါးခဲ့

သည်။

တိုက်ပွဲတစ်ပွဲ အောင်မြင်ဖို့အတွက် ရဲစွမ်းသတ္တိချည်းနှင့် မရ။ စုစည်းမှု၊ ပေါင်းစည်းမှု၊ ညီညွတ်မှု လိုအပ်သည်။

မြန်မာစကားတွင် 'တစ်ယောက်အားနှင့်ယူသော်မရ၊ တစ်သောင်းအားနှင့်ယူသော်ရ၏' ဟု ရှိ၏။ စုပေါင်းညီညွတ်မှုဖြင့် လွတ်လပ်ရေးအရယူရမည်။

သည်အတွေးဝင်လာသူက အောင်ဆန်း။

သညအတွေးဝင်လာသဖြင့် ညီညွတ်စည်းလုံးမှုအားကို အရယူခဲ့သည်။ သည်အတွေး တွေးမိသည်က ပညာဉာဏ်ကြောင့် ဖြစ်သည်။

ထို့ကြောင့် ဗိုလ်ချုပ်သည် ပညာကို ကြိုးစားသင်ယူခဲ့သည်။ တက္ကသိုလ်ကျောင်းသားဘဝတွင် မှန်ကန်မှုအား ဆုပ်ကိုင်ကျင့်သုံးကာ လုပ်သင့်သည့်အလုပ်အား လုပ်ခဲ့သဖြင့် ထင်ရှားခဲ့သည်။

အိုးဝေမဂ္ဂဇင်း အယ်ဒီတာ တက္ကသိုလ်ဥက္ကဋ္ဌ မြန်မာနိုင်ငံကျောင်းသားသမဂ္ဂဥက္ကဋ္ဌ တာဝန်များအားယူခဲ့ပြီး တက်ကြွသောကျောင်းသားများအား စည်းရုံးခဲ့သည်။

ထို့နောက် ဗိုလ်ချုပ်သည် တို့ဗမာအစည်းအရုံးဝင် 'ဗမာ့ထွက်ရပ်ဂိုဏ်း' အတွင်းရေးမှူး စသည့်ဘဝများအား ကျင်လည်ခဲ့ပြီး မြန်မာနိုင်ငံလွတ်လပ်ရေးအတွက် အသက်သွေးစတေး၍ တိုက်ပွဲဝင်ခဲ့သည်။

ဗိုလ်ချုပ်အောင်ဆန်းသည် ဦးဆောင်သူ ဖြစ်သည်။

ဗိုလ်ချုပ်အောင်ဆန်းသည် ဦးဆောင်သူအဖြစ် မြန်မာနိုင်ငံတွင် ရပ်တည်ဦးဆောင်နိုင်စေရန် သမိုင်းကပေးခဲ့သည်လား။

ဗိုလ်ချုပ်ကြောင့် လွတ်လပ်ရေးဝန်းသည် ညှိုးနွမ်းနေရာမှ ပြန်လည်လန်းဆန်းခဲ့သည်မဟုတ်လား။

(၂)

ကမ္ဘာ့သမိုင်းအား ပြန်လည်ကြည့်မည်ဆိုလျှင်လည်း ကမ္ဘာ့အရပ်ရပ်သည် သမိုင်းလိုအပ်ချက်အရ ပေါ်ပေါက်ခဲ့၏။ လီနင်သည် ရုရှားနိုင်ငံအတွက် မရှိမဖြစ် လိုအပ်သူ၊ သမိုင်းက ပေးခဲ့သူ။

မဟာတ္တမဂန္ဓီက အိန္ဒိယနိုင်ငံအတွက် လိုအပ်ချက်အရ ပေါ်ပေါက်လာသူ။

ပြီးတော့ မော်စီတုံး၊ ကျူးလီယက်ဖူးချစ်၊ ဘလီးဂျင်နား၊ ဖီဒက်ကက်စထရို၊ ချေဂွေဗားရား စသည်တို့ကလည်း သမိုင်းလိုအပ်ချက်အရ ပေါ်ပေါက်လာသူ၊ သမိုင်းကပေးခဲ့သူများတည်း။

သည်လိုပုဂ္ဂိုလ်မျိုးတွေက မြန်မာနိုင်ငံတွင်သာမဟုတ်။ ကမ္ဘာ့အရပ်ရပ်၌ ရှိခဲ့သည်။

"တော်လှန်ရေးအောင်ပွဲအတွက် တော်လှန်ရေး
အင်အားစုတွေ လိုအပ်တယ်။ တော်လှန်ရေး

အင်အားစုတွေရဲ့ စုစည်း ညီညွတ်မှုဟာ
အောင်ပွဲပဲ”

ဟု ဆိုခဲ့သည်။

ဗိုလ်ချုပ်အောင်ဆန်း ဦးဆောင်သည့် နယ်ချဲ့ဆန့်ကျင်ရေး ဖက်ဆစ်တော်လှန်ရေးများ အောင်မြင်ခဲ့သည်မှာ ဦးဆောင်မှု ကောင်းခြင်း၊ တော်လှန်ရေးအင်အားစုများ ညီညွတ်မှုကြောင့် ဖြစ်သည်ကို အထူးပြောစရာမလို။

ဗိုလ်ချုပ်အောင်ဆန်းက ပညာပြည့်ဝသူဖြစ်သဖြင့် စဉ်းစားဆင်ခြင်ဉာဏ်၊ အနာဂတ်မျှော်တွေးမှုအရာတွင် ပီပြင်ခဲ့ သည်ဟု ဆိုရမည်။

ပညာသည် အသိနှင့်သတိအား ထိန်းချုပ်နိုင်သည့် စွမ်းအားဖြစ်သည်။

ဗိုလ်ချုပ်၏ အသိဉာဏ်ကြောင့် ဘယ်အချိန်၌ ဘာလုပ် ရမည်ကို သိသည်။ ၁၉၃၆ ခုနှစ် တက္ကသိုလ်ကျောင်းသား သပိတ်နောက်ပိုင်း ဗိုလ်ချုပ်သည် နိုင်ငံရေးလောကထဲသို့ တိုးဝင် ခဲ့သည်။ တို့ဗမာအစည်းအရုံးဝင် ဖြစ်ခဲ့သည်။

ထို့အတူ ဟသ်ာတ၊ ဒေါင်ကြီး ဟောပြောပွဲအပြီး နယ်ချဲ့ တို့က ဗိုလ်ချုပ်အောင်ဆန်းနောက်သို့ ပိုက်စိတ်တိုက်လိုက်ချိန်၌ ဗိုလ်ချုပ်သည် လွတ်လပ်ရေးအတွက် လက်နက်ကိုင်တော်လှန် ရေး ဆင်နွှဲရန် ဆုံးဖြတ်ခဲ့သည်။

သည်အကြောင်းနှင့်ပတ်သက်၍ နိုင်ငံတော်ဝန်ကြီးချုပ်

(ဟောင်း) သခင်နု (ကွယ်လွန်) က ပြောဖူးသည်။

စိတ်ဝင်စားစရာလည်း ကောင်းနေသည်။

တစ်နေ့ ထုံးစံအတိုင်း အောင်ဆန်း သုတ်သီးသုတ်ပျာ ရောက်လာသည်။ ထိုစဉ်က နယ်ချဲ့စစ်ပုလိပ်တွေက အောင်ဆန်း (ဗိုလ်ချုပ်အောင်ဆန်း)နောက်သို့ ပိုက်စိတ်တိုက်လိုက်သဖြင့် ပုန်းလျှိုးကွယ်လျှိုး သွားလာနေရသည်။

နယ်ချဲ့စစ်ပုလိပ်တို့က အောင်ဆန်း (ဗိုလ်ချုပ်အောင်ဆန်း) အားတွေ့လျှင် ဖမ်းဆီးထိန်းသိမ်းခံရမည်မှာ မုချ။

သခင်နုက အောင်ဆန်း(ဗိုလ်ချုပ်အောင်ဆန်း) အားတွေ့တော့-

"အောင်ဆန်းရယ်၊ မင်းမလဲ ဒီနယ်ချဲ့စစ်ပုလိပ်တွေကို ရှောင်နေရတာ ပင်ပန်းလှပါတယ်။ နိုင်ငံရေးသမား အဖမ်းခံရတာ ထောင်ကျတာ မဆန်းပါဘူး"

ဟု ထုံးစံအတိုင်း တည်ငြိမ်စွာ ပြောသည်။ အောင်ဆန်းကလည်း တည်ငြိမ်စွာ ရှုတည့်တည့်နှင့်-

"နိုင်ငံရေးသမား အဖမ်းခံရတာ၊ ထောင်ကျတာ မဆန်းဘူးဆိုတာ ကျွန်တော် သိပါတယ်။ ကျွန်တော် ထောင်ကျမှာလည်း မကြောက်ဘူး။ ကျွန်တော် ထောင်ကျမခံနိုင်တာက ကြောက်လို့ မဟုတ်ဘူး။ အခုလို လွတ်လပ်ရေးအတွက်

အရေးကြီးနေတဲ့အချိန်မှာ အချိန်ကုန်မခံချင်လို့ပါ။ အခုလည်း လွတ်လပ်ရေးအတွက် အချိန်နဲ့တစ်ပြေးညီ လုပ်သင့်တဲ့အလုပ်တစ်ခု လုပ်တော့မှာမို့ ကိုကြီးနုကို လာတိုင်ပင်တာပါ"

သခင်နုက ဆတ်ကနဲ ကြည့်လိုက်သည်။

"အောင်ဆန်း၊ မင်း ဘာလုပ်မယ်လို့ ဆုံးဖြတ်ထားလို့လဲ"

သခင်နုက ပြန်မေးလိုက်လျှင်-

"တခြားတော့ မဟုတ်ဘူး ကိုကြီးနု၊ ကျွန်တော်ပြည်ပအကူအညီယူပြီး လက်နက်ကိုင်တော်လှန်ရေးဆင်နွှဲဖို့ ဆုံးဖြတ်ပြီးပြီ။ ဒါပေမယ့် ကိုကြီးနုက ဘာသာရေးသမားဖြစ်လို့ ကျွန်တော်ပါဝင်ဖို့ အတင်းအကျပ် မစည်းရုံးပါဘူး"

ဟု ပြောသည်။ ထို့နောက် ဗိုလ်ချုပ်အောင်ဆန်းသည် သခင်နုအား ဘာမှဆက်မပြောပါ။ စည်းရုံးမှုလည်း မပြုခဲ့ပါ။

သူ့ဆုံးဖြတ်ချက်အတိုင်း လုပ်ခဲ့သည်။ မူလရည်မှန်းချက်ဖြစ်သည့် တရုတ်ခေါင်းဆောင် မော်စီတုန်း၏ တရုတ်လွတ်မြောက်ရေးတပ်မတော်နှင့် အဆက်အသွယ်မရခဲ့သော်လည်း စိတ်ဓာတ်မကျခဲ့။ ပြည်ပတွင် အဆက်အသွယ်စောင့်စားရှာဖွေရင်း ဂျပန်ဗိုလ်မှူးကြီး ကာနယ်ဆူဇူကီး (ထိုစဉ်က ဆူဇူကီးသည် သတင်းထောက်အဖြစ်နှင့် ဟန်ဆောင်နေသည်) နှင့်

တွေ့ခဲ့သည်။

ဂျပန်နှင့်အဆက်အသွယ်ရပြီး ဂျပန်တပ်မတော်နှင့် ညှိနှိုင်းဆွေးနွေးနိုင်ခဲ့သည်။

ရဲဘော်သုံးကျိပ်အား မြန်မာပြည်မှ ခေါ်ထုတ်ပြီး ဂျပန်ပြည်၊ ဟိုင်နန်ကျွန်း၌ စစ်ပညာသင်နိုင်ခဲ့သည်။

ဗမာ့လွတ်လပ်ရေးတပ်မတော်အား ဖွဲ့စည်းနိုင်ခဲ့ပြီး နယ်ချဲ့ဗြိတိသျှတို့အား ဂျပန်အကူအညီနှင့် တိုက်ထုတ်နိုင်ခဲ့သည်။

ဗိုလ်ချုပ်အောင်ဆန်း၏ မှန်ကန်သောဦးဆောင်မှုဖြင့် နယ်ချဲ့ဝါဒနှင့် ဖက်ဆစ်စနစ်ကို တိုက်ခိုက်အောင်မြင်ခဲ့ပြီး လွတ်လပ်ရေးအား အရယူနိုင်ခဲ့၏။

လွတ်လပ်ရေးရပြီး ထိုအကြောင်းနှင့်ပတ်သက်၍ သခင်နု (ဝန်ကြီးချုပ်ဟောင်း/ကွယ်လွန်)က-

"အောင်ဆန်း လက်နက်ကိုင်တော်လှန်ရေးနဲ့ နယ်ချဲ့ကို တိုက်ထုတ်တွန်းလှန်ဖို့ ထွက်သွားတော့ အောင်ဆန်း ထောင်ကျမှာကြောက်တယ်လို့ထင်ခဲ့တယ်။ ထောင်ထဲမှာ အချိန်ကုန်မခံနိုင်ဘူးဆိုတာကို လက်မခံခဲ့ဘူး။ ဒါပေမယ့် ကိုယ်တိုင် ထောင်ထဲမှာ နှစ်ရှည်လများနေခဲ့မှ ထောင်ထဲနေရချိန်ဟာ အကျိုးမဲ့နေရတာ၊ အချိန်ဖြုန်းတာနဲ့ တူတယ်ဆိုတာ သိရတယ်"

"ဟုတ်တယ်၊ တကယ်တော့ အောင်ဆန်းဟာ

အဲ့ဒီတုန်းက နယ်ချဲ့စစ်ပုလိပ်တွေရဲ့ အဖမ်းခံရ
မယ်၊ ထောင်ကျခံခဲ့ရမယ်ဆိုရင် ရဲဘော်သုံးကျိပ်
ဆိုတာ ပေါ်လာမှာမဟုတ်သလို လွတ်လပ်ရေး
ဆိုတာလည်း ရလာမှာမဟုတ်ဘူး”

ဟု ပြောခဲ့သည်။

မှန်သည်။ ဗိုလ်ချုပ်အောင်ဆန်းက အဓိကနှင့်သာမည
အား ခွဲခြားသိသူ။ အနာဂတ်အရေး မျှော်တွေးတွက်ဆတတ်သူ။

ရာဇဝင်နဲ့လူ…။

သမိုင်းနဲ့လူ…။

✣ ✣ ✣

## အောင်ဆန်းစုကြည်ဟုခေါ်သည်
## သို့မဟုတ်
## ဒီမိုကရေစီသူမ

မြန်မာသမိုင်းစဉ် အမှတ်အသားများအရ ဗိုလ်ချုပ် အောင်ဆန်းသည် နယ်ချဲ့လက်အောက်သို့ ရောက်ရှိနေသည့် မြန်မာပြည်လွတ်လပ်ရေးအတွက် သမိုင်းလိုအပ်ချက်အရ ပေါ်ထွန်းလာသူ ဖြစ်သည်။

ယင်းကဲ့သို့ပင် အောင်ဆန်းစုကြည်ဆိုသည်ကလည်း မြန်မာနိုင်ငံ ဒီမိုကရေစီကျင့်စဉ်နှင့်ညီသော ခေတ်မီဖွံ့ဖြိုး တိုးတက်သည့်နိုင်ငံအဖြစ် ဒီမိုကရေစီပြုပြင်ပြောင်းလဲမှုများ ဖြစ်ပေါ်လာစေရန် သမိုင်းလိုအပ်ချက်အရ ပေါ်ပေါက်လာသူဟု ပြောလျှင်လည်း မမှားနိုင်ပါ။

အားမာန်သစ်စာပေ

သမိုင်းသည် ဆင်ဆာမရှိပါ။ ဖြတ်တောက်ချန်လှပ်ထား၍မရပါ။

သမိုင်းဟူသည်မှာ ပကတိဖြစ်စဉ်အမှန်တရား ဖြစ်ပါသည်။

'ဒီမိုကရေစီ' နှင့်ပတ်သက်၍ လူတိုင်းပါးစပ်ဖျား၌ရေပန်းစားလာသည်မှာ '၈၈'နောက်ပိုင်းဟု ဆိုရမည်။

၈၈ အရေးအခင်းအကြောင်းပြောလျှင် ၈၈ သည် ဒီမိုကရေစီအရေးအခင်းဟု အမည်တပ်ပြောကြစေကာမူ ၈၈ အရေးအခင်း၏ အစပိုင်းတွင် ဒီမိုကရေစီ မရှိသေး။

၈၈ အရေးအခင်းသည် တစ်ပါတီစနစ်၊ တံခါးပိတ်ဝါဒနှင့် ပြည်သူအများ ဆင်းရဲမွန်းကြပ်မှု၊ ပြည်ပသွေးထိုးလှုံ့ဆော်မှုမှ အထွေထွေမကျေနပ်မှုနှင့် စခဲ့သည်။

ယင်းသို့ အထွေထွေမကျေနပ်မှု ပြည်သူတို့ရင်ထဲ လိပ်ခဲတင်းလည်းဖြစ်နေချိန် စက်မှုတက္ကသိုလ်ကျောင်းသားနှင့် အရပ်သားလူငယ်တို့၏ လက်ဖက်ရည်ဆိုင်ရန်ပွဲ ထိန်းသိမ်းကွပ်ကဲမှုမမှန်ကန်ခြင်းကြောင့် စက်မှုတက္ကသိုလ်ကျောင်းသား ဖုန်းမော်သေဆုံးရခြင်းမှ ပေါက်ကွဲခဲ့ခြင်းပင်။

ထိုစဉ် ပြည်ပအသံလွှင့်ဌာနများမှ မီဒီယာနည်းအရသွေးခွဲခဲ့သဖြင့် စုရုံးဆန္ဒပြခြင်းမှ စက်ရုံ၊ ဂိုဒေါင်ဖောက်ခြင်း၊ ပြည်သူပိုင်ပစ္စည်းများ ဖျက်ဆီးခြင်းနှင့် အကြောင်းမဲ့အပြစ်ရှာခေါင်းဖြတ်သတ်ဖြတ်မှုများ ဖြစ်ခဲ့သည်။

၈၈ အရေးအခင်းအစသည် အရိုင်းဆန်ခဲ့သည်မှာ အမှန်တရား ဖြစ်သည်။

ထိုအချိန်တွင် အောင်ဆန်းစုကြည်သည် မိခင်ဖြစ်သူ ဒေါ်ခင်ကြည် နာမကျန်းဖြစ်သဖြင့် မြန်မာပြည်သို့ ရောက်နေချိန်။

ဆူပူမှု၊ လူသားချင်းစာနာမှုကင်းမဲ့ခြင်း၊ ပြည်သူပိုင်ပစ္စည်းများ ဆုံးရှုံးနစ်နာခြင်းများရှိနေချိန်။

၈၈ ဒီဇင်ဘာလထဲ၌ ဗိုလ်ချုပ်ကတော်ဒေါ်ခင်ကြည် ကွယ်လွန်အနိစ္စရောက်ခဲ့သည်။ ထိုအချိန် ဖခင်ဖြစ်သူ ဗိုလ်ချုပ်အောင်ဆန်း ဦးဆောင်၍ နယ်ချဲ့လက်မှ အသက်ပေးရယူပေးခဲ့သည့် မြန်မာနိုင်ငံနှင့် တိုင်းရင်းသားချစ်ကြည်ရေး ပြိုကွဲရမည့် အခြေအနေ ဖြစ်ခဲ့သည်။

ထိုအချိန်တွင် မိခင် ဆုံးရှုံးရသဖြင့် ယူကျုံးမရဖြစ်ရခြင်းနှင့် တိုင်းပြည်အနာဂတ်ရေးအတွက် ရင်လေးမှု၊ စိုးရိမ်ပူပန်မှုများ ရှိနေချိမ့်မည်။

စင်စစ် အောင်ဆန်းစုကြည်သည် ပြည်သူကိုချစ်သည့် ဗိုလ်ချုပ်အောင်ဆန်း၏သမီးဖြစ်သကဲ့သို့ မိခင်ဒေါ်ခင်ကြည်ကဲ့သို့ ကရုဏာစိတ်နှင့် မိသားစုဘဝ မြတ်နိုးစိတ်ရှိသူ ဖြစ်သည်။

အောင်ဆန်းစုကြည်၏ဘဝသမိုင်းအား ပြန်ကြည့်လျှင် သူမသည် အသက် (၄၀) ဝန်းကျင်အထိ ဖခင်နှင့်မိခင် ဖြစ်စေချင်သည့် ပညာတတ်ဖြစ်ရန် အပတ်တကုတ် ကြိုးစားသင်ယူ

ခဲ့သည်။ စာရေးဆရာအဖြစ် ရပ်တည်နိုင်ခဲ့သည်။

ထို့အတူ အောင်ဆန်းစုကြည်သည် မိသားစုဘဝအတွက် အဖိုးထိုက်သော ဇနီးမယား၊ သားများအပေါ် တာဝန်ကျေသော မိခင် ဖြစ်ခဲ့သည်။

သမီးကောင်းရတနာဆိုလျှင်လည်း မမှားပါ။

အောင်ဆန်းစုကြည်သည် မိရိုးဖလာ မြန်မာမိန်းကလေး ပီသသော ဇနီးကောင်း၊ မိခင်ကောင်း။

သို့သော် အမျိုးသားခေါင်းဆောင်ကြီး ဗိုလ်ချုပ်အောင်ဆန်း၏သမီးဖြစ်သဖြင့် နိုင်ငံချစ်စိတ်၊ လူမျိုးချစ်စိတ်လည်း ရှိမည်ပင်။

ထို့အတူ ၈၈ အရေးအခင်းအစပိုင်းတွင် လူထုလေးစားသည့် ခေါင်းဆောင်မရှိသောအရေးအခင်းအဖြစ် မှန်ကန်စွာ ရှုမြင်သုံးသပ်လျှင် ပီပြင်စွာ တွေ့ရမည်။

လူထုကြည်ညိုလေးစားသည့် ခေါင်းဆောင်လိုအပ်ချိန်တွင် *လူထုကြည်ညိုလေးစားသူအား ရှေ့တန်းတင်၍ အောင်ပွဲ* ရယူရန် ကြိုးစားသူများက အောင်ဆန်းစုကြည်အား အရေးအခင်းတွင်းသို့ ဆွဲသွင်းခဲ့သည်။

အောင်ဆန်းစုကြည်ရင်တွင်း၌ တိုင်းပြည်ချစ်စိတ်၊ ပြည်သူအပေါ် လေးစားချစ်ခင်စိတ်ရှိသဖြင့် ပါဝင်ခဲ့သည်။

ရွှေတိဂုံဘုရားအနောက်မုခ် လူထုတရားပွဲသို့ အောင်ဆန်းစုကြည် တက်ရောက်ဟောပြောပြီးသည့်နောက်ပိုင်း ၈၈ အရေး

အခင်း၌ ဒီမိုကရေစီဆိုသည့်အသံသည် ပထမ တိုးတိုးမှ နောက် ကျယ်လောင်လာသည်တည်း။

ဆူပူမှုနှင့် အရိုင်းဆန်သော၊ ၈၈ အရေးအခင်းသည် အောင်ဆန်းစုကြည်ကြောင့် ဒီမိုကရေစီအရေးအခင်းအဖြစ် ပြောင်းလဲခဲ့သည်မှာ သမိုင်းသက်သေပင်။

သည်အတွက် အောင်ဆန်းစုကြည်အား ကျေးဇူးတင်ပါသည်။

အောင်ဆန်းစုကြည်သည် မြန်မာပြည်နှင့် အနေဝေးသဖြင့် မြန်မာပြည်သူတို့၏ စိတ်ထားအမှန်ကို ပိုင်ပိုင်နိုင်နိုင် ပြည့်ပြည့်ဝဝသိမည်မဟုတ်သော်လည်း မြန်မာပြည်သူပြည်သားဟူသမျှသည် ဗြဟ္မစိုရ်တရား (၄)ပါးအခြေခံသည့် ဒီမိုကရေစီနှင့် လူသားချင်းစာနာမှုစိတ်ထားသန္ဓေ အပြည့်ရှိသည်ဟု ဆိုရမည်။

> ''ကျွန်မတို့နိုင်ငံကို ဗြဟ္မစိုရ်တရား (၄)ပါး
> အခြေခံတဲ့ မွန်မြတ်တဲ့ ဒီမိုကရေစီနိုင်ငံဖြစ်ဖို့
> ကျွန်မတို့ ကြိုးစားလျှောက်လှမ်းရမယ်''

ဟု သူမက ပြောဖူး၏။

ဒီစကားက သူမရင်ထဲကစကား။ လေးစားမြတ်နိုးဖွယ် အောင်ဆန်းစုကြည်၏ မိရိုးဖလာ ဒီမိုကရေစီသန္ဓေစိတ်အမှန်ဟု ဆိုရမည်ပင်။

မှန်သည်။

တိုင်းရင်းသားချစ်ကြည်ရင်းနှီးမှုသည် ဒီမိုကရေစီဝါဒ အရင်းခံပင်။ အသားအရောင် ခွဲခြားမှုမရှိဘဲ ကြင်နာစိတ်ထား ရှိကြခြင်းပင် ဒီမိုကရေစီစိတ်ပင်။

မိမိအိမ်တွင် အစေ့ာ်လုပ်လျှင် ဘေးပတ်ဝန်းကျင်အား အသိပေးခြင်း၊ လမ်းဘေးရေအိုးစင်ထားရှိခြင်းသည် လူသားချင်း စာနာထောက်ထားခြင်းပင်။

ဒါတွေက မြန်မာနိုင်ငံတွင် ရှိနေခဲ့သည်။

ဒါကို သူမသိသည်။

* * *

အောင်ဆန်းစုကြည်ဟုခေါ်သည်ကို တချို့က မနှစ်သက်။ ဒေါ်အောင်ဆန်းစုကြည်ဟု သုံးစွဲသင့်သည်ဟုဆိုသည်လည်း ကြားဖူးသည်။

သည်အကြောင်းနှင့်ပတ်သက်၍ ပြောရလျှင် အောင်ဆန်း စုကြည်ဟု သုံးစွဲခြင်းသည် သူမအား မရိုသေ၍၊ မလေးစား၍ မဟုတ်ပါ။

အောင်ဆန်းစုကြည်ဟူသည်မှာ သူ့တန်ဖိုးနှင့်အညီ ပေါ်ပေါက်လာသည့်အမည် အခေါ်အဝေါ် ဖြစ်သည်။ ရိုးသား စွာ ဖွင့်ဆိုရလျှင် အောင်ဆန်းစုကြည်သည် သာမန်လူတန်းစား မဟုတ်ပါ။ စာပေပညာရှင် စာရေးဆရာ ဖြစ်သည်။ စာရေးဆရာ၊ စာပေပညာရှင်တို့သည် အသက်အရွယ်အရ အပြောင်းအလဲ

မရှိပါ။ စတင်ခံယူချိန်မှ သေဆုံးသည့်အချိန်ထိ ဂုဏ်ပြုသတ်မှတ်ခေါ်သည့် သန္ဓေအမည် ဖြစ်သည်။

ထို့ကြောင့် အောင်ဆန်းစုကြည် တန်ဖိုးသိသူများက အောင်ဆန်းစုကြည် သန္ဓေအမည်ကိုသာ သုံးစွဲခြင်းဖြစ်သည်။

မြန်မာ့ရိုးရာစဉ်လာအရ အသက်အရွယ်အလိုက် ဦး၊ ဒေါ် တပ်ကြသည်မှာ သာမန်အရပ်သူအရပ်သားများ ဖြစ်သည်။ ပညာရှင်၊ စာရေးဆရာတို့အား 'ဦး၊ ဒေါ်' တပ်ခြင်းမရှိပါ။ သို့ကြောင့် အောင်ဆန်းစုကြည်ဟု သုံးစွဲခြင်းသည် သူ့တန်ဖိုးအရ သုံးစွဲခြင်းဖြစ်သည်။

ထို့အတူ တစ်ခါက မိတ်ဆွေတစ်ဦးက ပြောဖူးသည်။ အခြားမှုမဟုတ်ပါ။

"အောင်ဆန်းစုကြည်ဆိုတာ အဖေ့ကိုယ်ပွား၊ အမေ့ကိုယ်စား တန်ဖိုးထားခြင်း၊ ပြီးတော့ အဖ၊ အမိရဲ့ မေတ္တာတရားစုဝေးခြင်းကို ဆိုရင်လည်းရတယ်။ အောင်ဆန်းလိုသားမျိုး မွေးပေးခဲ့တဲ့အတွက် ဂုဏ်ပြုရာလည်းရောက် အောင် ဖွားအေကြီး 'အမေစု' ကို အမိ၊ အဖ တို့ကြားထားပြီး အမှတ်အသားပြုခြင်းလို့ လည်းပြောရင်ရတယ်။ ပြောရရင် အောင်ဆန်း စုကြည်ဟာ အောင်ဆန်းမျိုးဆက်ရဲ့ စုစည်း ခြင်းသန္ဓေလေ။ ဒါကြောင့် ငါကတော့ သူ့ကို

လူသာမန်တွေလို အသက်မကြီးစေချင်ဘူး။ 'ဒေါ်'တပ်ပြီး တန်ဖိုးမချချင်ဘူး။ အောင်ဆန်းစုကြည်ဖခင်ဟာ အောင်ဆန်းလေ။ သန္ဓေအမည်လေ။ 'ဦး'တပ်လို့ မရဘူး။"

"ဒါအမှန်ပဲ။ တန်ဖိုးရှိတဲ့ သန္ဓေအမည်ကို 'ဦး' တပ်လို့မရဘူး။ 'အောင်ဆန်း' ကို 'ဗိုလ်ချုပ်အောင်ဆန်း'ခေါ်လို့ရတယ်။ 'ဦးအောင်ဆန်း' လို့ သုံးမရဘူး။ သခင်နုကို သခင်နုပဲခေါ်လို့ ရတယ်။ သခင်ဦးနုလို့ ခေါ်မရဘူး။ အဲဒီလိုပဲ အောင်ဆန်းစုကြည်ဟာ ပညာရှင်စာရေးဆရာ ဖြစ်တဲ့အတွက် ဒေါ်အောင်ဆန်းစုကြည် သုံးရင် သူ့တန်ဖိုးဟာ ကျသွားမယ်။ ဒါ အောင်ဆန်းစုကြည်ကို အမြဲတမ်း အော စုကြည်လို့ပဲ လေးစားစွာ ခေါ်မယ်၊ သုံးမယ ဟု ပြောသည်။

မှန်သည်။ နာမည်တိုင်းတွင် သူ့လုပ်ရပ်နှင့်သူ တန်ဖိုး ရှိသည်။ အောင်ဆန်းစုကြည်၌ တန်ဖိုးတွေ များစွာများစွာ ရှိသည်။

ထို့ကြောင့် 'အောင်ဆန်းစုကြည်' ဟု ခေါ်ပါသည်။

✣ ✣ ✣

## ပြည်သူကိုချစ်သော ဗိုလ်ချုပ်
## ပြည်သူကချစ်သော ဗိုလ်ချုပ်

'အောင်ဆန်း' သည် သန္ဓေအမည် ဖြစ်သည်။ ငယ်စဉ်ကလေးဘဝ၊ အထက်တန်းကျောင်းသားဘဝ၊ တက္ကသိုလ်ကျောင်းသားဘဝ၊ တို့ဗမာအစည်းအရုံးဝင်ဘဝ၊ တပ်မတော်သားဘဝ၊ နိုင်ငံရေးသမားဘဝ၊ ဘဝစုံ၊ တိုင်းပြည်လွတ်မြောက်ရေး၊ တိုင်းရင်းသားလူမျိုးတို့ ကျွန်ဘဝက လွတ်မြောက်ရေး၊ နယ်ချဲ့လက်အောက်မှ လွတ်မြောက်ရေး၊ ဖက်ဆစ်စနစ် မြန်မာနိုင်ငံ၌ ချုပ်ငြိမ်းရေးအတွက် တိုက်ပွဲဝင်ခဲ့သူ၊ ဦးဆောင်ခဲ့သူ။

ငယ်မည် (ဇာတာအမည်) မောင်ထိန်လင်းဖြစ်သော်လည်း အားလုံးက အစ်ကိုအောင်သန်းအား အစွဲပြု၍ မှည့်ခေါ်သည့် *အောင်ဆန်းအမည်သည် ထင်ရှားခဲ့၏။*

အားမာန်သစ်စာပေ

တက္ကသိုလ်ကျောင်းသားဘဝ၊ အိုးဝေမဂ္ဂဇင်းအယ်ဒီတာ အောင်ဆန်း၊ ကျောင်းသားသမဂ္ဂအတွင်းရေးမှူးအောင်ဆန်း၊ တို့ဗမာအစည်းအရုံးဝင် သခင်အောင်ဆန်း၊ ရဲဘော်သုံးကျိပ်အား ဦးဆောင်သူ၊ ဗလာလွတ်လပ်ရေးတပ်မတော်၏ ဗိုလ်ချုပ်ဘဝ၊ ဗိုလ်ချုပ်အောင်ဆန်း…။

အောင်ဆန်းသည် ဗိုလ်ချုပ်။

ဗိုလ်ချုပ်သည် အောင်ဆန်း။ ဗိုလ်ချုပ်အောင်ဆန်း ဖက်ဆစ်တော်လှန်ရေးအပြီး တပ်မတော်မှထွက်၍ လွတ်လပ် ရေးအတွက် နိုင်ငံရေးလောကသို့ဝင်ကာ လှုပ်ရှားတော့လည်း ဗိုလ်ချုပ်အောင်ဆန်းပင်။

ဦးအောင်ဆန်း မဟုတ်ခဲ့။ ဗြိတိသျှနန်းရင်းဝန် မစ္စတာ အက်တလီနှင့် လွတ်လပ်ရေးအတွက် စာချုပ်ချုပ်တော့ စာချုပ် အမည်က 'အောင်ဆန်းအက်တလီ' စာချုပ်။

ဗိုလ်ချုပ်ဆိုလျှင် 'အောင်ဆန်း' ဟုသိသည်။ အောင်ဆန်း သည် ဗိုလ်ချုပ်၊ ဗိုလ်တေဇ၊ ဗိုလ်ချုပ်အောင်ဆန်းစသည်ဖြင့်။

ဗိုလ်ချုပ်အောင်ဆန်းက ငယ်စဉ်တောင်ကျေးကလေးဘဝ ကတည်းက နိုင်ငံကို ချစ်သည်။ လူမျိုးလွတ်လပ်စေလိုသည်။ နိုင်ငံချစ်စိတ်၊ လူမျိုးချစ်စိတ်ကြောင့် မြန်မာနိုင်ငံလွတ်လပ်ရေး အတွက် အလုပ်လုပ်ရန် သန္နိဋ္ဌာန်ချသည်။ ဘဝစုံဖြတ်သန်း၍ နိုင်ငံနှင့်လူမျိုးလွတ်လပ်ရေးအတွက် အသက်စွန့်လုပ်ခဲ့သည်။

'အောင်ဆန်း'၊ ဗိုလ်ချုပ်အောင်ဆန်းက တိုင်းပြည်နှင့်

လူမျိုး ပြည်သူအား ချစ်သည်။ ပြည်သူအကျိုးအတွက် ကိုယ်ကျိုးစွန့်လုပ်ခဲ့သည်။

ဗိုလ်ချုပ်...

ကျွန်တော်တို့ ချစ်သည့် ဗိုလ်ချုပ်...

အယ်ဒီတာကောင်း အောင်ဆန်း...

ကျောင်းသားခေါင်းဆောင် အောင်ဆန်း...

စာရေးဆရာ အောင်ဆန်း...

သခင်အောင်ဆန်း...

တပ်မတော်ဖခင် ဗိုလ်ချုပ်အောင်ဆန်း...

လွတ်လပ်ရေးဖခင်၊ အမျိုးသားခေါင်းဆောင် ဗိုလ်ချုပ်အောင်ဆန်း၊ ပြည်သူချစ်တဲ့ ဗိုလ်ချုပ်အောင်ဆန်း။

* * *

မေတ္တာဟူသည် အလျားအနံမရှိသော်လည်း အသွားအပြန်ရှိသည်ဟု စကားရှိသည်။

ဗိုလ်ချုပ်က တိုင်းပြည်ကိုချစ်၊ လူမျိုးကိုချစ်၊ ပြည်သူကိုချစ်သလို ပြည်သူကလည်း ဗိုလ်ချုပ်ကို ချစ်သည်။

ယင်းသို့ ဗိုလ်ချုပ်ကိုချစ်သဖြင့် ဗိုလ်ချုပ်အားထိလျှင်မချိအောင်နာကြသည်။ သာဓကလည်း ရှိသည်။

ဖက်ဆစ်ဂျပန်အား တော်လှန်ပြီး မြန်မာ့မြေမှ ဖက်ဆစ်ဂျပန်တို့ထွက်သွားတော့ အင်္ဂလိပ်တို့က ဒုတိယအကြိမ် ပုံစံ

တစ်မျိုးနှင့် မြန်မာ့မြေပေါ် ပြန်လည်ခြေချလာသည်။

မြန်မာနိုင်ငံအား ဗြိတိသျှလူမျိုးဘုရင်ခံက ဦးစီး၍ လွှတ်တော်မှ ဆုံးဖြတ်အုပ်ချုပ်သည့်စနစ်ဖြင့် မြန်မာနိုင်ငံအား အုပ်ချုပ်ခဲ့သည်။ လွှတ်တော်သည် ဘုရင်ခံလက်အောက်၌ ရှိနေသည်။

လွှတ်တော်မှ ဆုံးဖြတ်ဖွဲ့စည်းသော အစိုးရအဖွဲ့သည် ဘုရင်ခံအလိုတော်ကျ အစိုးရအဖွဲ့ ဖြစ်သည်။ မြန်မာနိုင်ငံ အုပ်ချုပ်ရေးအတွက် အစိုးရအဖွဲ့အား ဘုရင်ခံက ဖွဲ့စည်းပေး၏။ ဗိုလ်ချုပ်အောင်ဆန်းအား 'ဝန်ကြီး' ရာထူး ပေး၏။

ဗိုလ်ချုပ်က ငြင်း၏။

သည်တော့ ဗြိတိသျှကပေးသည့် ထူထောင်ရေးဝန်ကြီး သခင်ထွန်းအုပ်က 'ဗိုလ်ချုပ်တို့လူသိုက် ရာထူးမရ၍ တိုက်ကြသည်' ဟု ဝေဖန်သည်။

ဗိုလ်ချုပ် ဝန်ကြီးရာထူးမယူသည်က ရုပ်သေးရုပ်ဝန်ကြီး ဘဝ မလိုချင်သောကြောင့် ဖြစ်သည်။

ဗိုလ်ချုပ်နှင့်ပတ်သက်၍ သခင်ထွန်းအုပ်သည် ဝေဖန်ပြောခဲ့သည်မှာ မနည်း။ 'ဗိုလ်ချုပ်အား ရာထူးမရ၍ ရမ်းသည်' ဟု ပြောသည်ကို အားမရသေး။

ဂျပန်ခေတ်က လူသတ်ဖူးသည်ဟု စွပ်စွဲပြန်၏။ သည်အခါ ပြည်သူတို့က လောကမှာ ဘယ်လိုမှ ပြုပြင်မရတဲ့ လူဆိုးလူမိုက်တစ်ဦးကိုသာ သတ်လျှင်သတ်မည်။ သတ်လျှင်

လည်း ပြည်သူအတွက် ရန်ဆူးရန်ငြောင့်ဖြစ်နေသည်ကို ရှင်းလိုက်ခြင်းသာဖြစ်သဖြင့် အပြစ်ဆိုစရာမရှိဟု တုံ့ပြန်ဆိုကြ၏။

သည်အတွက် တိုင်းပြည်က ကျေးဇူးတင်သည်ဟုပင် ဆိုခဲ့သည်။

ပြည်သူတို့က မြန်မာပြည်ကြီး မိုက်မှောင်နေသည်။ လူမိုက်တွေ ပေါသည်။ မြန်မာပြည်၌ လူမိုက် ပိုပေါသည်။ ဗိုလ်ချုပ်သာ ဦးမဆောင်လျှင် မြန်မာပြည် လွတ်လပ်ရေး ဝေးမည်။

* * *

မြန်မာပြည်တွင်ကား မသိမိုက်မဲ ဆိုးဝါးလှသော လူမိုက်မျိုးစေ့များက ပေါလှသည်။

ထိုသူများက နိုင်ငံရေးစားဖားကြီးများပင်။

သူတို့က ဗိုလ်ချုပ်အား နာမည်ပျက်ပြီးရောစိတ်ဓာတ်ဖြင့် ဆိုကြခြင်းပင်။

ဖက်ဆစ်ဂျပန်ကို ခေါ်လာသူက အောင်ဆန်း။

နောက်ပြီး နိုင်ခြေရှိမှန်း ကျိန်းသေသိတော့

မဟာမိတ်နှင့် ပူးပေါင်းသည်ဟု ပြောသည်။

သည်စကားအဓိပ္ပာယ်က ရှင်းသည်။ ဗိုလ်ချုပ်သည် ပြည်သူများ ဖက်ဆစ်စနစ်၏ ဆိုးကျိုးခံစားရရန် ခေါ်လာသည်။

သူ အသားစီကိုကြည့်ကာယူတတ်သူ ဗိုလ်ချုပ်အောင်ဆန်းတို့ လူသိုက်ကြောင့် မြန်မာပြည် စစ်တလင်းဖြစ်ရသည်။ ဖက်ဆစ်စနစ်၏ ညှဉ်းပန်းနှိပ်စက်မှုခံခဲ့ရသည်ဟု အပြစ်ဖို့ခဲ့သည်။

ယင်းသို့ မဟုတ်မမှန် လုပ်ကြံအပြစ်ပြောခြင်းကို ဗိုလ်ချုပ် ဂရုမစိုက်။ ကိုယ်တိုင် ဖြေရှင်းခဲ့သည်။ တော်လှန်ရေးနေ့မိန့်ခွန်း၌ ဗိုလ်ချုပ် ထည့်ပြောခဲ့သည်။

"ကိုယ်မွေးတဲ့မျောက်က ကိုယ့်ပြန်ချောက်တာပဲ"

ဟုဆိုပြီး-

"ဗမာလူမျိုးများသည် အစကနဦကတည်းက လွတ်လပ်ရေးအတွက် ဆောင်ရွက်ခဲ့ကြောင်း ဥရောပမှာ ဂျာမနီနဲ့ပြင်သစ်၊ အင်္ဂလိပ်တို့ စစ်ဖြစ်ရတဲ့အရေးမှာကြည့်ရင် အင်္ဂလိပ်က မြှောက်ပင့်ပေးခဲ့တဲ့အတွက် စစ်ဖြစ်ရတာပဲ။ နောက်ဆုံး အခြေကျတော့ ကိုယ်မွေးတဲ့မျောက်က ကိုယ့်ကိုပြန်ချောက်တာပဲ။ ၁၉၃၁ ခုနှစ်က မန်ချူးရီးယားပြည်ကို ဂျပန်စော်ကားတုန်းက အင်္ဂလိပ်နဲ့ပြင်သစ်ဟာ အလေးမပြု ဂရုမစိုက်ခဲ့ဘူး"

နောက်ဆုံး သူတို့ကိုထိလာတော့မှ မတိုက်ပဲနေလို့မဖြစ်လို့ တိုက်ကြတာ။ အင်္ဂလိပ်က စစ်တိုက်ရတဲ့အရေး၌ပတ်သက်လို့ စစ်တိုက်ရတာ

ဒီမိုကရေစီဝါဒ နိုင်ငံတွင်း၏ လွတ်လပ်ရေး အတွက် စစ်တိုက်ရတာပါလို့ ပြောတယ်။

အဲဒီနေ့က အိန္ဒိယနဲ့ဗမာပြည်က 'ကျုပ်တို့ ကောပါသလားလို့မေးတော့ တုတ်တုတ်မလှုပ် ခဲ့ဘူး။ ပြီးတော့ ဗမာပြည်ကို မတိုင်ပင်၊ စစ်ထဲ ဆွဲသွင်းခဲ့တယ်။ ဗမာလွတ်လပ်ရေးကို လစ်လျူရှုခဲ့တယ်။ ဒီအချိန်မှာ ဗမာကလည်း လွတ်လပ်ရေး လိုချင်နေတော့ ဗမာကလည်း လွတ်လပ်ရေးအတွက် နိုင်ငံခြားတိုင်းပြည်တွေ ကို အားကိုးဖို့ ကြံဆခဲ့တယ်။ ဒီတော့ ဂျပန်နဲ့ တွေ့ရော၊ ဂျပန်ကလည်း လက်နက်ပေးတယ်၊ လွတ်လပ်ရေးလည်းပေးမယ်လို့ ဆိုတယ်။ ဗမာ တွေကလည်း လွတ်လပ်ရေးအတွက် အင်္ဂလိပ် ကို ဂျပန်ပေးတဲ့လက်နက်နဲ့ချတာပဲ။ ကျုပ်တို့ ချလို့ ဂျပန်လာတာ မဟုတ်ဘူး။ ဂျပန်ပြည် ဟာ ဗမာပြည်လာဖို့ နဂိုကတည်းက အစီအစဉ် ရှိတယ်။

ဂျပန်အလိုတော်ရိ ဗမာတပ်မတော် မဟုတ် ဘူး။ ဂျပန်အလိုတော်ရိဆိုရင် ဂျပန်နဲ့ ဆက် ပေါင်းနေမှာပေါ့။ တပ်မတော်ဟာ ဘယ်တုန်း ကမှ ဂျပန်အလိုတော်ရိအဖြစ် မနေခဲ့ဘူး။ ဟိုး

လက်ထက်တုန်းက ဝမ်းနည်းစရာတော့ ရှိတာပေါ့။ ဝမ်းနည်းစရာအဖြစ်အပျက်တွေလေ ရှိတာလည်း တပ်မတော်ရဲ့နာမည်ကိုယူပြီး အုပ်ချုပ်ရေးအဖွဲ့ကို ဖွဲ့ခဲ့တယ်။ ဒီအဖွဲ့က တိုင်းသူပြည်သားတွေကို နှိပ်စက်ခဲ့တယ်။ ဒါကြောင့် ဗမာနဲ့ကရင် အချင်းဖြစ်ပွားခဲ့တယ်။ ဒါတွေကို အကြောင်းပြုပြီး ဘီအိုင်အေဖျက်ဖို့ ဂျပန်က ကြံတယ်။ မဖြစ်တော့မှ ဘီဒီအေဆိုပြီး ဗမာ့ကာကွယ်ရေးတပ်မတော်ကို ဖွဲ့ခဲ့တယ်။

ဂျပန်ကို 'မူတူး' လို့ခေါ်တာ ဗမာတပ်မတော်က စခဲ့တာ။ ဂျပန်ကို တော်လှန်ဖို့ (၁)ရန်ကုန်ကို သိမ်းပြီးစက တစ်ခါ ကြိုးစားခဲ့တယ်။ (၂)ဗမာပြည်ကိုတိုက်ပြီး တစ်ခါကြိုးစားခဲ့တယ်။ (၃) လွတ်လပ်ရေးမပေးမီ တစ်ကြိမ်ကြိုးစားခဲ့တယ်။ ဒါပေမယ့် မအောင်မြင်ခဲ့ဘူးလေ။

နောက်မှ မဟာမိတ်နဲ့ပေါင်းပြီး ဂျပန်ကိုချခဲ့တာ။ ချတဲ့နေရာမှာလည်း အင်္ဂလိပ်နိုင်ခါနီးမှ ချတာမဟုတ်ဘူး။ ၁၉၄၃ ခုနှစ်၊ ဒီဇင်ဘာလကတည်းက ကြံခဲ့တာ။ ၁၉၄၄ မှာ အင်္ဂလိပ်နဲ့ ဆက်သွယ်မိပြီး ကြံတာပေါ့။ ပြောရရင်

အင်္ဂလိပ်က မလုပ်ပါနဲ့ဦးဆိုလို့ ဆိုင်းခဲ့ရတာ။ ဂျပန်ကိုတိုက်ဖို့ကြံရာမှာ မအောင်မြင်တဲ့ အကြောင်းတွေ ရှိခဲ့တယ်။ ရှိတာကို အခုပြော လို့ မဖြစ်သေးဘူး။ တချို့ကို ထိကုန်လိမ့်မယ်။

ဂျပန်ကို ခံချတဲ့အတွက် ဂျပန်မြန်မြန်ပြေး လို့ ပြည်သူပြည်သားတွေ သက်သာခဲ့တယ်။ ရန်ကုန်မြို့ကြီး အပျက်အစီးနည်းသွားတာဟာ တော်လှန်ရေးကြောင့် ဖြစ်တယ်။ ဒါကြောင့် ဂျပန်တွေ ထွက်ခတ် ခတ်မသွားနိုင်ဘူး။ ပဲခူး က မြစ်ကျိုးရေကာတာဟာလည်း တပ်မတော် ကြောင့် မကျိုးခဲ့ဘူး။ ဒီရေကာတာအသာ ကျိုးခဲ့ရင် ပဲခူးနယ်က ဆင်းရဲသားတွေ ဒုက္ခ ရောက်လို့ဆုံးမှာမဟုတ်ဘူး။ အစိုးရအရာရှိ အတော်များများကိုလည်း တပ်မတော်က ကယ် ခဲ့တယ်။ ဂျပန်လက်ဝါးက ကယ်ခဲ့တယ်။ ဂျပန်ခေတ် အကွပ်မခံဘူးလေ။

ဂျပန်ကိုချတာလည်း အင်္ဂလိပ်လိုလားလို့ မဟုတ်ဘူး။ ဒါဟာ အချိန့်တန်လို့ပဲ။ ဖက်ဆစ် ဝါဒကို မုန်းလို့ပဲ။ ပြောရရင် ဂျပန်ကို ဗမာက မချခင်တုန်းက အင်္ဂလိပ်က ဗမာပြည်အတွက် စက္ကူပြာစာတမ်းပေးဖို့ ကြံခဲ့တယ်။ အဲဒီစက္ကူ

ပြာစာတမ်းသဘောက စစ်အုပ်ချုပ်ရေး (၆)နှစ် အုပ်ချုပ်ပြီးနောက် ဘုရင်ခံက (၆)နှစ် အုပ်ချုပ်ဦးမယ်တဲ့။ တော်လှန်လိုက်တဲ့အတွက် စက္ကူဖြူစာတမ်းကလေးကို ရတယ်။ ဒါတောင် လွတ်လပ်ရေးအတွက်မှု တင်းနေရသေးတာပဲ။ တစ်ခုထူးတာက စက္ကူပြာထက်သာတာပဲ။

အင်္ဂလိပ်အကြံကလည်း ပိုင်ပါတယ်။ ဗမာပြည်ကို စီးပွားရေးဘက်က ဖိနှိပ်ပြီး အခွံကြီးကျန်တော့မှ ဒိုမီနီယံအုပ်ချုပ်ရေးပေးဖို့ ကြံနေတယ်။ သူတို့ပေးချင်တာက လုံးဝလွတ်လပ်ရေး မဟုတ်ဘူး။ ဒိုမီနီယံလောက်ပဲ ပေးချင်တာ။ ကျုပ်တို့က လုံးဝ လွတ်လပ်ရေးပဲ လိုချင်တာ။ ဒါပဲ။

ဒါပေမယ့် ခက်တာက ကျွန်တော် ရခိုင်သွားတုန်းက လူတစ်ဦးက (ဘူတစ်) ပါတီဖွဲ့ပြီး ဒိုမီနီယံပဲ ကျေနပ်တယ်လို့ ပြောတယ်။ ခင်ဗျတို့ စဉ်းစားကြည့်။ ဒီအဖွဲ့က နှစ်ယောက်ထွက်သွားပြီဆိုတော့ ကောက်ရိုးပါတီဖြစ်နေပြီ။ ဒီလူတွေက လုံးဝ လွတ်လပ်ရေးမလိုချင်ဘူးတဲ့။ မုန့်ဆီကြော်နဲ့ရမယ် မကြံသေးဘူး။ နှုတ်ခမ်းနာနဲ့ တည့်ပါ့မလားလို့မေးတာနဲ့

တူနေတယ်။ ကျွန်တော်က ဒီလိုလူမျိုးကို တစ်ခါပဲ တွေ့ဖူးတယ်။ ဒီလူမျိုးတွေက ကျွန်စိတ်မကုန်သေးတဲ့လူတွေပဲ။

ကျွန်တော်တို့က ရွေးကောက်ပွဲတောင်းတယ်။ မပေးဘူး။ ဒါပေမယ့် ကျွန်တော်တို့က လွတ်လပ်ရေးရအောင်လုပ်မှာပဲ။ တထစ်ချ ယုံကြည်ကြပါ။ ရွေးကောက်ပွဲလုပ်တဲ့နေရာမှာ အမတ် (၁၃၂) ယောက်အနက် (၉၀) ကျော်က တိုင်းပြည်သဘောကျလူပါနိုင်တယ်။ ဒီလူတွေက ကျွန်တော်တို့သဘောကျလူချည်းဖြစ်အောင် တိုင်းပြည်က လုပ်ပေးရင် အင်္ဂလိပ်နဲ့ စကားဆိုနိုင်မယ်။ မရရင် ကျွန်တော်တို့က လွတ်လပ်ရေး ကြေညာပြီးလုပ်မှာပဲ။

ရွေးကောက်ပွဲဖြစ်လာတဲ့အခါမှာလည်း စားနေကျကြောင်ပါးတွေက မင်းသားတစ်ပါးကို ချောင်ထဲကဆွဲထုတ်လာလိမ့်မယ်။ ပြီးတော့ ခွေးခွံဝက်ခွံတွေပြောပြီး မဟုတ်တာတွေ လုပ်လိမ့်မယ်။ ပြီးတော့ အစိုးရနဲ့ပေါင်းတဲ့လူတွေက ကျုပ်တို့ကို အပြစ်ရှာ၊ အမှုရှာပြီး ဖမ်းလိမ့်မယ်။ ရွေးကောက်ပွဲပြီးမှ ပြန်လွှတ်လိမ့်မယ်။ အထည်အဝတ်တွေဝေပြီး

ကလိမ်ကျလိမ့်မယ်။ ဘုန်းတော်ကြီးတွေကို ကထိန်ကပ်၊ သစ်ဝါးလှူပြီး မဲဆွယ်လိမ့်မယ်။ ဗမာပြည် ဒုက္ခရောက်တာ ကျုပ်တို့ကြောင့်လို့ ပြောလိမ့်မယ်။ သူတို့ကတော့ သွားပုတီးစိပ်နေတယ် ပြောလိမ့်မယ်။

လူထုက ဒါတွေ သတိပြုရမယ်။ အခုထဲက အဆင်သင့်လုပ်ထားရမယ်။ ဘာပဲဖြစ်ဖြစ် ကျုပ်ကတော့ တိုင်းပြည်က ထောက်ခံရင် ဗမာပြည် လုံးဝလွတ်လပ်ရေးရတဲ့အထိ ဆောင်ရွက်သွားမှာပဲ"

ဒါက ဗိုလ်ချုပ်၏ လွတ်လပ်ရေးအဓိဋ္ဌာန်ယုံကြည်ချက်ပင်။ ဗိုလ်ချုပ်သည် တိုင်းပြည်ကို ချစ်သည့်သူ ဖြစ်သည့်အတွက် တိုင်းပြည်အတွက်ပဲလုပ်သည်။

ထို့ကြောင့် ဗိုလ်ချုပ်အား ပြည်သူက ချစ်သည်။ အပြန်အလှန် ချစ်ကြည်မှုဖြင့် လွတ်လပ်ရေးအား အရယူနိုင်ခဲ့သည်။

စင်စစ် ခေါင်းဆောင်ကောင်းကို ပြည်သူကချစ်သည်။ ပြည်သူကိုလည်း ခေါင်းဆောင်က ချစ်ကြည်သည်။ ယုံကြည်သည်။ သို့မှလည်း အောင်မြင်မှုရနိုင်မည်၊ ရနိုင်သည်တည်း။

✣ ✣ ✣

## အပြန်အလှန် နားလည်မှုဖြင့် နိုင်ငံကို အလှဆင်နေသူများ

အမေရိကခရီးစဉ်အပြီး 'ကျွန်မ သမ္မတ လုပ်ရဲတယ်' ဟု အောင်ဆန်းစုကြည် ပြောသည်။ သည်စကားအတွက် ဘာညာတီးတိုးတီးတိုး သဖန်းပိုးသံတွေ ကြားသည်။

အောင်ဆန်းစုကြည်၏ ဖြတ်သန်းမှုသမိုင်းအား လေ့လာလျှင် ဗိုလ်ချုပ်နှင့်တူညီသည့်အချက်များ ရှိနေသည်ကို တွေ့ရသည်။ ဗိုလ်ချုပ်သမီးပဲလေ။

ဟန်ဆောင်မှုကင်းပြီး ရိုးရှင်းသည်။

၁၉၉၀ ရွေးကောက်ပွဲကာလ ရွှေဘိုဘက်မှာ အောင်ဆန်းစုကြည်အား နိုင်ငံခြားသား မိုက်ကယ်အဲရစ်အား လက်ထပ်ယူသည့်အကြောင်းအား မေးလျှင် သူမက-

"ကျွန်မဟာ ဒီတိုင်းပြည်မှာနေရတာ၊ ဒီတိုင်းပြည်မှာနေလို့ ဒီလူမျိုးနဲ့ညားတာ၊ ကျွန်မ ဒီမှာနေရင် ဒီမြို့သားနဲ့ညားမှာပဲ"

ဟု ပြောသည်ဟု ကြားသည်။

ကိုယ်တိုင်ကြားခဲ့ခြင်းမဟုတ်သော်လည်း ကြားရရုံနှင့် သူဟာ ရိုးသားပွင့်လင်းသူ၊ ဖခင်ဖြစ်သူကဲ့သို့ ရင်ထဲရှိသည့်အတိုင်း ရိုးသားပွင့်လင်းစွာ ပြောတတ်သူဖြစ်ကြောင်း တွေ့ရသည်။

ဗိုလ်ချုပ်ကလည်း ရိုးသားသလို ပွင့်လင်းသည်။

* * *

"လောကမှာ လူတစ်ယောက်ဟာ ကောင်းရင်ကောင်းမယ်။ ဆိုးရင်ဆိုးမယ်။ အကောင်းရှိသလို အဆိုးလည်း ရှိမယ်။ အဓိကက ကောင်းခြင်းဆိုးခြင်း မဟုတ်ဘူး။ မြုပြင်ပြောင်းလဲနိုင်မှုက အဓိကပဲ။"

ဟု ပြောဖူးသည်။ သူ့စကားသည် သူ ခံယူချက်ဖြစ်ကြောင်းလည်း သက်သေပြနိုင်ခဲ့သည်။

၁၉၉၀ ရွေးကောက်ပွဲအပြီးကာလက သူမှသည် အာဏာဖီဆန်ရေး၊ ထိပ်တိုက်ရင်ဆိုင်ခြင်းလမ်းစဉ် ကျင့်သုံးခဲ့သည်။

*တပ်မတော်နှင့် သူမသည်လည်း သဟဇာတ မဖြစ်ခဲ့။*

သို့ဖြင့် သူသည် တိုင်းပြည်အတွက် ပြည်သူလူထုအတွက် ထဲထဲဝင်ဝင် အလုပ်မလုပ်နိုင်ခဲ့။

နေအိမ်အကျယ်ချုပ်ဖြင့် နေခဲ့ရသည်။ နေအိမ်၌ အကျယ်ချုပ်နှင့်နေသည်ဖြစ်စေ၊ အကျဉ်းထောင်ထဲ၌နေရသည်ဖြစ်စေ ထိုအချိန်တို့သည် လွတ်လပ်မှုမရှိသည်ကတော့ အမှန်ပင်။

ဗိုလ်ချုပ်စကားနှင့်ပြောရလျှင် တန်ဖိုးရှိသည့်အချိန်များအား ဖြုန်းတီးသလို ဖြစ်သည်။

သို့သော် ဂန္ဒီကမူ 'အကျဉ်းနေ့ရက်တွေက အနာဂတ်အိပ်မက်သစ်ကို မက်နိုင်တယ်' ဟုဆိုသည်။

အောင်ဆန်းစုကြည်က သူ ခံယူသလိုပင် သူ လျှောက်လှမ်းမှု မှားသည်၊ မှန်သည်ကို မဝေဖန်လို။ သို့သော် ထူးခြားသည်က နေအိမ်အကျယ်ချုပ်မှနေပြီး မြန်မာနိုင်ငံ၌ ရွေးကောက်ပွဲနှင့် အစိုးရအပြောင်းအလဲလုပ်ခဲ့ပြီး နေအိမ်အကျယ်ချုပ်မှ လွတ်မြောက်ခဲ့သည်။

သည်နေ့က အောင်ဆန်းစုကြည်နေသည့်အိမ်ရှေ့တွင် သူ့ပရိသတ်တွေ အပြည့်ရှိနေသည်။

ယင်းကဲ့သို့ပင် ရပ်ကွက်တွင်း၌ ရှိနေသည့်သူများက

"အောင်ဆန်းစုကြည်လွတ်လပ်ပြီ။ သူ ဘာဆက်လုပ်မလဲ။ အရင်ကလို အာဏာဖီဆန်ရေး၊ ထိပ်တိုက်ရင်ဆိုင်မှုတွေနဲ့ တိုင်းပြည်မတည်မငြိမ်ဖြစ်အောင် လုပ်ဦးမလား"

ဟု တွေးနေရင်မောနေသူတွေ ရှိသည်။

ဒါကို သိထားရန်လိုသည်။

ပြည်သူ့အသံအစစ်ကို သူ နားလည်ဖို့လိုသည်။ လောက၌ တစ်ဆင့်ကြားရသောအသံသည် ပြည်သူ့အသံအစစ် မဟုတ်။

သို့တစေ ထိုနေ့က-

"နောင်ဆို လူထုကြီးလမ်းပေါ် ထွက်စရာမလို
တော့ပါဘူး"

ဟု ပြောခဲ့သည်။

နေအိမ်အကျယ်ချုပ်၌ အကျဉ်းခံအဖြစ်နေရသည့်ရက်များက သူမအတွက် အနာဂတ်အတွက် စိတ်ကူးသစ်အိပ်မက်သစ် လုပ်သင့်မလုပ်သင့် ချင့်တွက်ရန် အကောင်းဆုံး ဖြစ်ခဲ့သည်လား။

'အချိန်သည် တိုင်ပင်သင့်ဆုံးပညာရှိ ဖြစ်သည်' ဟူသည့် ရှေးသူဟောင်းတို့စကားသည် အမှန်ပင်။

ကျွန်တော့်နှလုံးသားတွင်း၌မူ ငြိမ်းချမ်းရေးနိုဘယ်ဆုရှင် အောင်ဆန်းစုကြည်၏ နိုင်ငံရေးခရီးစဉ်တွင် ထိုစကားသည် အထိရောက်ဆုံး၊ အဓိပ္ပာယ်အရှိဆုံး ငြိမ်းချမ်းရေးစကားဟု ခံယူမိသလို လေးစားမိပါသည်။

အဘယ့်ကြောင့်ဆိုသော် ငြိမ်းချမ်းရေး ဒီမိုကရေစီအရေး၊ အမျိုးသားပြန်လည်သင့်မြတ်ရေးအတွက် တည်ငြိမ်အေးချမ်းမှုသည် အဓိကကျသည်။

တည်ငြိမ်မှုမရှိလျှင် ငြိမ်းချမ်းမှုအာဘယ်မှာလျှင် ရနိုင်ပါ မည်နည်း။

ဒီစကားသည် အောင်ဆန်းစုကြည်ရင်ထဲတွင် နိုင်ငံနှင့် လူမျိုးအတွက် အဘယ်မျှ တန်ဖိုးကြီးသည်ကို သိသာသည်။

ယင်းနောက် သူမသည် နိုင်ငံနှင့်လူမျိုးအတွက် တွေ့ဆုံ ဆွေးနွေးမှုများပြုခဲ့သည်။ ပြည်ထောင်စုဝန်ကြီးနှင့် တွေ့ဆုံပြီး နောက် သမ္မတကြီးနှင့် တွေ့ခဲ့သည်။

ပါတီအား ပြန်လည်ဖွဲ့စည်းကာ ရွေးကောက်ပွဲဝင်ရန် မှတ်ပုံတင်ခဲ့သည်။

ကြားဖြတ်ရွေးကောက်ပွဲဝင်ခဲ့သည်။ အောင်မြင်ခဲ့သည်။

* * *

အောင်ဆန်းစုကြည်က ဖအေတူသမီး။

ဗိုလ်ချုပ်က အမှန်တရားအား မျက်နှာမှုသည်။ ပြည်သူ အနာဂတ်ကို မျှော်တွေးသည်။

ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေအရ သူ့အတွက် ဟန့်တား မှုရှိနေသော်လည်း သူက သဘောထားကြီးစွာ လုပ်သည်။ တိုင်းပြည်အကျိုး၊ နိုင်ငံအကျိုးသည် အဓိက။

သူမ လွှတ်တော်ဝင်ဖို့ ကျမ်းသစ္စာကျိန်ဆိုတော့ စကား အသုံးအနှုန်းတစ်ခုအတွက် ပြဿနာဝင်ခဲ့ဖူးသည်။ သည်တော့ ပြည်သူထဲမှာ ဖြစ်ပေါ်ခဲ့သည့်အကြောင်းမှန်ကို သူမ သိချင်မှ သိမည်။

*

ကျွန်တော်က ပြည်သူ့အသံမှန်ကို ပြောပြချင်သည်။

အသုံးအနှုန်းတစ်ခုအတွက် လွှတ်တော်တက်ရန် သုံးလေးရက် နောက်ကျသွားတော့ ပြည်သူတွေက-

"လျှော်မွေးဗာရာဏသီချဲတာ မကောင်းဘူး။ မလိုအပ်ဘူး။ သူ အဓိကနဲ့သာမည ခွဲသင့်တယ်။ ပြည်သူအကျိုး လိုလားရင် ဒါလေးကို ရိုးမယ်မဖွဲ့သင့်ဘူး။ မြန်မြန် လွှတ်တော်ထဲရောက်၊ မြန်မြန် ထဲထဲဝင်ဝင်ဖြစ်မှ တိုင်းပြည်အကျိုးရှိမှာ။ သူ့ကို အားကိုးနေတာ"

ဟု ပြောကြသည်။

တကယ် ပြည်သူတွေက လျှာကဝေများမဟုတ်။ တီးတိုးပြောတတ်သူများ၊ ကြိတ်ခံစားသူများ။ ဒါကို သူမ သိသင့်သည်။

ဆူပူမှု၊ မငြိမ်သက်မှုကို သူ စွန့်လွှတ်လိုက်သည့်အတွက် ပြည်သူက သူ့ကို လေးစားနေကြသည်။

* * *

"ဟိုဟာမရဘူး၊ ဟိုဟာ မဖြစ်သေးဘူးလို့ ပြောနေမယ့်အစား တိုင်းပြည်နဲ့ လူထုအကျိုးရှိမယ့်ကိစ္စကို အလေးထားရမယ်။ တူညီတာတွေ ညှိပြီး ပြည်သူအကျိုးဖြစ်စေမယ့်အလုပ်တွေ လုပ်ရမယ်"

ဟု သူ ပြောခဲ့သည်။

သူ အခု တကယ်လုပ်နေပြီ။

သူက လုပ်သင့်သည့်အလုပ်ကို အဓိက ဦးစားပေး လုပ်နေကြောင်း သိနေပြီ။

သမ္မတကြီးဦးသိန်းစိန်နှင့်အတူ ပူးပေါင်းလုပ်ကိုင်နေသဖြင့် ဒီမိုကရေစီပြုပြင်ပြောင်းလဲမှုနဲ့ အမျိုးသားရင်ကြားစေ့ရေး၊ ငြိမ်းချမ်းရေးတွေ အကောင်အထည်ဖော်စပြုပြီ။

အမေရိကန်ခရီးက တကယ့်ကို ပီပြင်သည်။ သူက ဗိုလ်ချုပ်သမီးပီပီ ပြည်သူအကျိုးအတွက် တာဝန်ယူနိုင်သည့်ကိစ္စမှန်သမျှ တာဝန်ကျေစွာ တာဝန်ယူနေပြီ။

ပူးပေါင်းမှု၊ ညီညွတ်စည်းလုံးမှုကြောင့် ပိတ်ဆို့မှုတွေလည်း ဖြေလျှော့နေပြီ။

အောင်ဆန်းစုကြည်သည် ဖအေတူသမီး ပီသသည်။ နိုင်ငံဒီမိုကရေစီနိုင်ငံဖြစ်ဖို့သာ အဓိကထားသည်။

အောင်ဆန်းစုကြည် နေအိမ်အကျယ်ချုပ်မှလွတ်စ 'နောင်ဆို လူထုကြီးလမ်းပေါ် ထွက်စရာမလိုတော့ပါဘူး' ဟု ငြိမ်းချမ်းရေးစကား ပြောခဲ့သည်။

အမေရိကန်ခရီးတွင် ပြောသည့်စကားကလည်း သန်း(၆၀)ပြည်သူအား ကိုယ်စားပြုသည့်စကား၊ ငြိမ်းချမ်းရေးစကားပင်။

"ကျွန်မဟာ အခြေခံဥပဒေအရ သမ္မတဖြစ်ခွင့်
မရှိပေမယ့် နိုင်ငံအကျိုး၊ ပြည်သူ့အကျိုး
အတွက် အစွမ်းကုန် အကျိုးပြုလုပ်ကိုင်သွား
မှာပါ"

ဟူသည့်စကား…။

ငြိမ်းချမ်းရေးစကား…။

ငြိမ်းချမ်းရေးနဲ့ဘယ်ဆုရှင် ပီသသော၊ ဗိုလ်ချုပ်သမီး ပီသသောစကား၊ မင်္ဂလာစကားပင်…။

စာဖတ်သူများရဲ့
နေစိုးထက်

## အပြောင်းအလဲနှင့်
## သူမ သုံးသပ်ချက်သဘောထား

သူမက-

"မြန်မာနိုင်ငံဟာ အပြောင်းအလဲဖြစ်နိုင်တဲ့ အခြေအနေမှာ လုံလောက်နေပြီ"

ဟု ပြောသည်။

ပြီးတော့ သူမက-

"ကျွန်မတို့နိုင်ငံဟာ အပြောင်းအလဲဖြစ်နိုင်တဲ့ အခြေအနေမှာ ရောက်ရှိနေပါပြီ။ အပြောင်းအလဲဖြစ်ပြီလို့လည်း ကျွန်မ မပြောချင်ဘူး။

ဒါပေမယ့် ဒါ ကျွန်မ လူသိရှင်ကြား ပြောပြီးပြီ ဖြစ်ပါတယ်။ အပြောင်းအလဲဖြစ်နိုင်တဲ့ အခြေအနေကိုရောက်နေပြီလို့ ကျွန်မ ယုံကြည်တယ်။ ဒီအပြောင်းအလဲတွေဟာ တိုင်းပြည်အတွက်၊ ပြည်သူအတွက် အကောင်းဆုံးဖြစ်အောင်လို့ ဘယ်ပုံဘယ်နည်းနဲ့လုပ်မလဲဆိုတာ လူတိုင်းလူတိုင်းဟာ တာဝန်သိသိနဲ့ လေးလေးနက်နက် စဉ်းစားရမှာ ဖြစ် တယ်”

ဟု ပြောခဲ့သည်။

* * *

သူက တည်ငြိမ်ရင့်ကျက်သည်ကတော့ အမှန်ပင်။ သူမက-

“အပြောင်းအလဲတွေဟာ ညင်သာရမယ်၊ ငြိမ်းချမ်းရမယ်၊ သိက္ခာရှိရမယ်။ ပြည်သူကို မထိရဘူး။ နိုင်ငံကို မထိရဘူး။ ဆင်းသွားတဲ့ အစိုးရကိုလည်း မထိရဘူး။ တက်လာတဲ့ အစိုးရကိုလည်း မလိုလားအပ်တဲ့ အခွင့်အရေးတွေ မပေးရဘူး။ အားလုံးမျှတဲ့ အပေါ်မှာ မူတည်ရမယ်”

ဟုဆိုသည်။ ထို့ပြင်-

“ကျွန်မတို့ရဲ့ ဒီမိုကရေစီ တော်လှန်ရေး ဆိုတာ တကယ်တော့ စိတ်ဓာတ်တော်လှန်

ရေးပဲ။ ဒီမိုကရေစီ ခေါင်းမော့လာအောင် လုပ်ဖို့ဆိုရင် ကိုယ့်စိတ်တွေက တကယ့်ကို ဒီမိုကရေစီနဲ့လျော်ညီတဲ့ စိတ်တွေကို ကျွန်မတို့ မွေးမြူရမယ်။ ကျွန်မတို့ ပါးစပ်ကနေပြီးတော့ ဘယ်လိုပဲပြောပြော၊ နေနေ၊ စိတ်ကနေပြီး မပါရင် ကျွန်မတို့ အောင်မြင်အောင် လုပ်နိုင်မှာ မဟုတ်ဘူး"

"ကျွန်မတို့ စိတ်ဓာတ်တော်လှန်ရေးဆိုတာ စိတ်ကို ပြောင်းလဲခြင်းပဲ။ တော်လှန်ရေးဆိုတာ အခြေအနေတစ်ခုကို သိသိသာသာ တစ်ခါတည်း ပြောင်းလဲပစ်တာပဲ။ ထင်သာမြင်သာအောင်လို့ အပြောင်းအလဲကြီးကြီး လုပ်လိုက်တာပဲ"

ဟု ပြောသည်။

သို့နှယ်ပင် မှတ်ပုံမတင်ရသေးသည့် အမျိုးသား ဒီမိုကရေစီအဖွဲ့ဝင်များနှင့်ပတ်သက်၍မူ-

"မှတ်ပုံတင်ခြင်းမပြုလုပ်ရသေးသော အမျိုးသား ဒီမိုကရေစီအဖွဲ့ဝင်တွေဟာ နှစ်ပေါင်း (၂၀) ကျော် ဒီမိုကရေစီအတွက် လုပ်ရပါတယ်။ လုပ်လာပါတယ်လို့ ပြောပြီးမှ အခုလိုအချိန်

ရောက်တဲ့အခါ ကိုယ့်ရဲ့တာဝန်ဟာ ဘာလဲ၊ ကိုယ် ဘယ်လိုဆက်ပြီး လုပ်သွားရမယ်ဆိုတာကို ကိုယ်ပိုင်ဉာဏ်နဲ့ သိအောင် လုပ်သွားရမှာပါ။ ကြိုးစားလုပ်သွားရမှာပါ။ ကြိုးစားကြပါ။ သူများပြောတိုင်းလည်း နားယောင်ဖို့ မလိုပါဘူး။ ပြောတိုင်းလည်း ယုံစရာ မဟုတ်ပါဘူး။ ကိုယ့်ဘာသာကိုယ် သေသေချာချာ လေ့လာပါ။ လေ့လာပြီးတဲ့အခါ ကိုယ် ယုံကြည်သရွေ့ ယုံကြည်သည့်အလျောက် ဆက်ဖြီး ခိုင်ခိုင်မာမာ လျှောက်လှမ်းကြပါလို့ တိုက်တွန်းချင်ပါတယ်"

ဟု မှူတစ္စာ စေတနာစကား ဆိုခဲ့သည်။

သူမ စကားများသည် ဘက်မရှိသော၊ ဘက်မပါသော စေတနာစကား။ တိုင်းပြည်နှင့် လူထုအကျိုးပြုစကားဖြစ်သည်ကို တွေ့ရ၏။

✣ ✣ ✣

## ၁။ လွှတ်တော်အမတ်တွေရဲ့ တာဝန်

တခြားနိုင်ငံတွေမှာ လွှတ်တော်အမတ်ရယ်လို့ တိုင်းပြည်က တင်မြှောက်လိုက်တဲ့အခါ အဲဒီလွှတ်တော်အမတ်တွေက လွှတ်တော်အစည်းအဝေး မရှိတဲ့အခါမျိုးမှာ မိမိ အားလပ်ချိန်ရသမျှ အတောအတွင်းမှာ မိမိတို့ကို ရွေးချယ်တင်မြှောက်လိုက်တဲ့နယ်ကို ပြန်သွားပြီးတော့ သူတို့လွှတ်တော်မှာ ဘာတွေ ဖြစ်ခဲ့တယ်၊ ဘာတွေလုပ်ခဲ့တယ် အစရှိသဖြင့် အခြေအနေအရပ်ရပ်ကို ကိုယ့်နယ်ကိုယ်ပြန်ပြီး အစီရင်ခံတဲ့ ထုံးစံ ရှိတယ်။

## ၂။ ဒီအစီပွါယ်သက်ရောက်ပါစေ . . .

မြန်မာပြည်မှာလည်း ဒီထုံးစံဖြစ်စေချင်တဲ့အတွက် ဖဆပလအဖွဲ့ချုပ်က တိုက်တွန်းတဲ့အနေနဲ့ ပြန်လွှတ်ပေမယ့် လွှတ်တော်အမတ်တွေဟာ ကိုယ်ဆိုင်ရာနယ်တွေကို ပြန်ပြီး အစီရင်ခံတဲ့အစီပွာယ် မသက်ရောက်တော့ဘဲ နိုင်ငံရေးရှင်းတမ်းတရားပွဲလုပ်သလို ဖြစ်နေတယ်။

တင်မြှောက်လိုက်တဲ့ လွှတ်တော်အမတ်အဖြစ်နဲ့ လွှတ်တော်မှာ ဘာတွေလုပ်နေလို့၊ ဘာတွေဖြစ်ခဲ့တယ်ဆိုတာ နယ်သူနယ်သားတွေသိအောင် အစီရင်ခံဖို့ အဓိကရည်ရွယ်ချက်နဲ့လုပ်သလို ဖြစ်ပါစေ။

## ၃။ နိုင်ငံသစ် (၁)

ကျွန်တော်တို့ဗမာပြည်လို လက်အောက်ခံနိုင်ငံတွေအဖို့မှာ 'နိုင်ငံသစ်' ဆိုတဲ့သဘောအရ လူမျိုးခြားလက်အောက်က လွတ်မြောက်ပြီးတဲ့နောက် ကိုယ့်ဟာကိုယ် ကိုယ့်ထီးကိုယ့်နန်း ကိုယ့်အစိုးရနဲ့ ကိုယ့်မင်းကိုယ့် ချင်း ထူထောင်တာကို ကျွန်တော်တို့အဖို့မှာ နိုင်ငံသစ်လို့ ဆိုရမယ်။

## ၄။ နိုင်ငံသစ် (၂)

လွတ်လပ်တဲ့နိုင်ငံတွေဖြစ်တဲ့ ကိုယ့်လူမျိုးအချင်းချင်း အုပ်စိုးတဲ့တိုင်းပြည်တွေမှာတော့ ရှိတဲ့အစိုးရစနစ် အဆောက်အဦတစ်ခုလုံးကို ပြောင်းလဲဖျက်ဆီးပြီးတဲ့နောက် အသစ်ကျပ်ချွတ်စနစ်တစ်မျိုးနဲ့ တိုင်းသစ်ပြည်သစ်စနစ် တည်ထောင်ပုံကတစ်မျိုး။

## ၅။ တိုင်းပြည်ပြုလွှတ်တော်

အဲဒီနှစ်မျိုးလုံး ပေါ်ပေါက်လာတဲ့အချိန်မျိုးမှာ တိုင်းပြည်ပြုလွှတ်တော်ဆိုတာ ထုံးစံအားဖြင့် ပေါ်လာစမြဲ ဖြစ်တယ်။

## ၆။ အသစ်ပြန်လည်ပြုပြင်ဖို့

ဘာဖြစ်လို့ ပေါ်လာရသလဲဆိုရင် အဲဒီလို တိုင်းသစ်၊ နိုင်ငံသစ်ဖြစ်နေတော့ ပြန်ပြီးတော့ ဥပဒေတွေ၊ စနစ်တွေ အကုန်ပြန်ပြီး ရေးဆွဲရမှာဖြစ်တော့ အခြေခံကစပြီး ပြန်ပြီးတော့ ပြုလုပ်ရမယ့်အတွက် ဖြစ်တယ်။

## ၇။ လုပ်ရမယ့်အလုပ်တွေ

ကျွန်တော်တို့ နိုင်ငံသစ်ကို ပြန်လည်ထူထောင်ဖို့အတွက် တိုင်းပြည်ပြုလွှတ်တော်က ပြန်ပြီး ဥပဒေသစ်၊ စနစ်သစ်တွေ ပြန်လည်ရေးဆွဲရပါလိမ့်မယ်။

တိုင်းပြည်သစ်ရဲ့ပုံစံဟာ ဘယ်လိုရှိသင့်တယ်ဆိုတာ တိုင်းပြည်ပြုလွှတ်တော်က ဆုံးဖြတ်ရစမြဲပဲ။

တိုင်းပြည်ပြုလွှတ်တော်က နိုင်ငံသစ် ထူထောင်ဖို့တာဝန်ပဲ။

## ၈။ နိုင်ငံသစ်ထူထောင်ဖို့အတွက်

နိုင်ငံသစ်ကို ထူထောင်ဖို့အတွက် ပေါ်ပေါက်လာတဲ့ တိုင်းပြည်ပြုလွှတ်တော်ဟာ အချုပ်အခြာနဲ့ ပြည့်စုံဖို့လိုတယ်။ ကိုယ် တည်ချင်တဲ့နိုင်ငံမျိုးကို တည်နိုင်မှာ မဟုတ်ဘူး။

*၁၉၄၇၊ ဇူလိုင် (၁၃) ရက်*
*ရန်ကုန်မြို့တော်ခန်းမ၊*
*လူထုတရားပွဲ*

✣ ✣ ✣

## ကျမ်းကိုးစာရင်း

၁။ လွတ်လပ်ရေးဗိသုကာ ဗိုလ်ချုပ်အောင်ဆန်း
(မောင်ထင်)
၂။ ဦးအောင်သန်း
အောင်သန်း၏အောင်ဆန်း
၃။ ဒဂုန်တာရာ
(ရုပ်ပုံလွှာ)
၄။ သတင်းစာဆရာ ဦးပုကလေး
(ငါတို့ ဗိုလ်ချုပ် ဘာလုပ်ခဲ့သလဲ)
၅။ ဗိုလ်ချုပ်အောင်ဆန်း မိန့်ခွန်းပေါင်းချုပ်
(စာပေဗိမာန်)
၆။ တက္ကသိုလ်နေဝင်း
လွတ်လပ်ရေးဗိသုကာ ဗိုလ်ချုပ်အောင်ဆန်း
၇။ နိုင်ငံရေးသုခမိန်
မောင်ထင်
၈။ တက္ကသိုလ်နေဝင်း
အမှတ်တရ ဗိုလ်ချုပ်အောင်ဆန်း
၉။ ပြည်တွင်းထုတ်ဂျာနယ်များ
၁၀။ ဗိုလ်ချုပ်ထိက မချိအောင်နာ
(ရဲဘော်လှတင်)
၁၁။ မှတ်မှတ်သားသား ဗိုလ်ချုပ်အောင်ဆန်းပြောစကားများ
(အောင်မြတ်ဦး)
၁၂။ AFP , AP , BBC , BOA သတင်းများ